အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

M3-884
2/11

အကြောင်းအရာ။ **Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် တင်ပြခြင်းကိစ္စ**

P1.1701
27.10.16

၁။ Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေ ဧရိယာ (၅၄၇.၈၀)ဧက အနက်မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့် မှ မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၈ ရက်နေ့တွင် ကျင်းပသောကော်မရှင်၏(၂၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေ ဧရိယာ (၅၄၇.၈၀)ဧက အနက်မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက်ထုတ်ပေးမည့် **ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)**တို့အား ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
| --- | --- | --- | --- |
| လက်မှတ် | 26/10/16 | 26/10/2016 | 27/10/16 |
| အမည် | (စိုးသီဟ) | (မီမီသဉ္ဇာချို) | (ဒေါက်တာမင်းဇော်ဦး) |
| ရာထူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး | ဒုတိယညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၃။ ခွင့်ပြုမိန့်နှင့် ကြော်ငြာစာ (မူကြမ်း) ကို ဥပဒေရှုထောင့်
မှ သုံးသပ်ပေးနိုင်ပါရန် လေးစားစွာ တင်ပြပါသည်။

၂၈/၁၀/၁၆

ပုံစံ (မနသ-၂)
စာအမှတ် 2012
ရက်စွဲ 22.11.2016

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၂၁၆ / ၂၀၁၆ ။ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးရဲမြင့်

(ခ) **အဘ အမည်** ဦးထွန်းမြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန (နိုင်) ၀၀၄၂၁၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅)၊ အခန်း(၆)၊ ပွဲရုံတန်း၊ ချမ်းမြသာယာရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးမြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Phwint Phyo Thit Company Limited ( ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ရေကြည်ကျေးရွာအုပ်စု၊ကွင်းအမှတ်(၅၄၈)၊ရေကြည်အရှေ့ကွင်း၊ ဦးပိုင်ပေါင်း ၉၉ ကွက်ရှိ မြေဧရိယာ (၃၇၂.၉၂) ဧက အနက် မြေဧရိယာ (၇.၅)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၃၄၈၀၁.၉၆ သန်း(အမေရိကန်ဒေါ်လာ၁၅.၆၃၅ သန်း အပါအဝင် စုစုပေါင်း ကျပ် သုံးသောင်း လေးထောင် ရှစ်ရာ့တစ်သန်း နှင့် ကိုးသိန်း ခြောက်သောင်း ခန့် )

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

11.11.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၂ /၂၀၁၆ (မနသ)
၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)မှ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၄၈)၊ ရေကြည်အရှေ့ကွင်း၊ ဦးပိုင်ပေါင်း ၉၉ ကွက်ရှိ မြေဧရိယာ(၃၇၂.၉၂)ဧက အနက် မြေဧရိယာ(၇.၅)ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့် မှ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊အောက်တိုဘာလ ၂၈ ရက်နေ့တွင်ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့် ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၂၁၆ /၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်

နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခွန်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက် အရန်ပစ္စည်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ဥပဒေပုဒ်မ ၂၀(ဆ)အရပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ နှင့် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံ များ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်)သည် မန္တလေး မြို့တော်စည်ပင်သာယာရေးကော်မတီမှ မြေဧရိယာ(၂၁၇.၈၀)ဧက အနက် မြေဧရိယာ(၇.၅)ဧက ကို လွှဲပြောင်းရယူပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း တည်ဆောက်ရေးအတွက် မြေ အသုံးချမှု ပရီမီယံ ကြေးအဖြစ် ကျပ် သန်း ၄၈၀ ( ကျပ် သန်း လေးရာ့ ရှစ်ဆယ် တိတိ ) ကို တစ်လုံးတစ်ခဲတည်း ကြိုတင် ပေးသွင်းရမည်။

၈။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်) သည် စီမံကိန်း တစ်ခုလုံးကို Developer အဖြစ် အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုကို ၁၀၀% ဆောင်ရွက်ရမည်။ Developer ဖြစ်သည့်အားလျော်စွာ စီမံကိန်းပါလုပ်ငန်းများကို မိမိ ကိုယ်တိုင်သော်လည်းကောင်း၊ပိုမိုအဆင့်အတန်းမြင့်လာရေးအတွက် “မန်းစည်ပင်”၏ သဘောတူညီ ချက်အရ လုပ်ငန်းကျွမ်းကျင်သော အခြားကုမ္ပဏီတစ်ခုခုဖြင့် သော်လည်းကောင်း ၊ ပြည်ပ ကုမ္ပဏီ အဖွဲ့အစည်းများနှင့် သော်လည်းကောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၉။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေဧရိယာ (၂၁၇.၈၀) ဧက အနက် မြေဧရိယာ(၇.၅)ဧက တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အတွက် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်) သို့ အပြီးအပိုင် လွှဲပြောင်းပေးရမည်။

၁၀။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် နိုင်ငံတကာအဆင့်မီ ရေတံခွန်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေး နှင့် လူနေအဆောက်အအုံများတည်ဆောက်ရေး စီမံကိန်းသဘောတူစာချုပ်ကို လက်မှတ် ရေးထိုး သည့်နေ့မှ စတင်၍ ဟိုတယ်တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ဟိုတယ် ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့် အညီ ပေးဆောင်ရမည်။

၁၃။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဟိုတယ် တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေး ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခို ရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံ လိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirement and Criteria)ထက် မနိမ့်ကျစေရေးအတွက် အဆိုပါ ဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၄။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေ များပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၅။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်း စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment Plan-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကိုပြုလုပ်ဆောင်ရွက်ပြီးယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံ ရမည်။

၁၆။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ် အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရ မည်။ ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက် ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက် တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၇။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက်

လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၈။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်း ဥပဒေ များ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင် သို့ **မပျက် မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး(တစ်)လ အတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာန/အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့်မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထား သော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်း ခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့်

ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊မရက-၄ /မ-၁၅၅၄/၂၀၁၆ (၁၀၂၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း-**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး ၊မန္တလေးမြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်ဓါတ်အားပို့လွှတ်ရေးနှင့် ကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ ခရီးသွားလုပ်ငန်းအဖွဲ့ချုပ်
မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မန္တလေးမြို့
မန်နေဂျင်း ဒါရိုက်တာ၊ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

| ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|
| (စ) ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fibrelink Myanmar Co., Ltd. မှ Fibre Infrastructure Related Internet and Telecommunication Services to Government Sector and Private Sector လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဆ) ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy (Myanmar) Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး နဘူးအိုင် နှင့် ဝမ်းတွင်းဒေသတို့တွင် B.O.T စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ်စီ ရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဇ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Swel Hein Group Company Limitedမှ အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဈ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မဟာဘားအံ ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Mahar Hpa An Production Co., Ltd.) တည်ထောင်ကာ CMP စနစ်ဖြင့် အမျိုးသမီး အတွင်းခံ အဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ည) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီ လီမိတက် (United Precise Company Limited) မှ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဋ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Pwint Phyo Thit Co., Ltd. မှ BOT စနစ်ဖြင့် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း အား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ........ /၂၀၁၆ ။ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးရဲမြင့်

(ခ) **အဘ အမည်** ဦးထွန်းမြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန (နိုင်) ၀၀၄၂၁၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅)၊ အခန်း(၆)၊ ပွဲရုံတန်း၊ ချမ်းမြေ့သာယာရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးမြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင်၊ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က) ရှိ မြေဧရိယာ (၅၄၇.၈၀) ဧက အနက် မြေဧရိယာ (၇.၅)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၃၄၈၀၁.၉၆ သန်း( အမေရိကန်ဒေါ်လာ ၁၅.၆၃၅ အပါအဝင် စုစုပေါင်း ကျပ် သုံးသောင်း လေးထောင် ရှစ်ရာ့တစ်သန်း နှင့် ကိုးသိန်း ခြောက်သောင်း ခန့် )

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် နိုဝင်ဘာလ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မြေဧရိယာ(၅၄၇.၈၀)ဧက အနက် မြေဧရိယာ (၇.၅)ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့် မှ မန္တလေးတိုင်းဒေသကြီးအစိုးရ အဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၂၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့် ထုတ်ပေးရန်" ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- /၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်

တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက် အရန်ပစ္စည်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ဥပဒေပုဒ်မ ၂၀(ဆ)အရပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ နှင့် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ

ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်) သည် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ သို့ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် စုစုပေါင်း ကျပ် ၄၈၀.၀၀ သန်း (ကျပ် လေးရာ့ ရှစ်ဆယ် သန်း တိတိ)ကို BOO စနစ်ဖြင့် နှစ်ဦးနှစ်ဖက် ညှိနှိုင်း သဘောတူ ကြေပါသည်။

၈။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဟိုတယ်စီမံကိန်း ဆောင်ရွက်ရန် နိုင်ငံတကာအဆင့်မီ ရေတံခွန်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ဟိုတယ် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့် အညီ ပေးဆောင်ရမည်။

၁၁။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဟိုတယ် တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေး ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirement and Criteria)ထက် မနိမ့်ကျစေရေးအတွက် အဆိုပါ ဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၃။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေ

များပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။
၁၄။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတ နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။
၁၅။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။
၁၆။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။
၁၇။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်း ဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။
၁၈။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု

လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး(တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာန/အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့်မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက မျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊မရက-၄ /မ-၁၅၅၄/၂၀၁၆ ( )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ရက်

**ဖြန့်ဝေခြင်း-**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန
ကာကွယ်ရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး ၊မန္တလေးမြို့
မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မန္တလေးမြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်ဓါတ်အားပို့လွှတ်ရေးနှင့် ကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ ခရီးသွားလုပ်ငန်းအဖွဲ့ချုပ်
မန်နေဂျင်း ဒါရိုက်တာ ၊ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၇ ရက်

အကြောင်းအရာ။ **Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီး မြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကော်မရှင်၏(၂၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ(မူကြမ်း)**တို့ အားပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 7/10/16 | 7/10/16 | 7/10/16 |
| အမည် | (စိုးသီဟ) | (မီမီသဉ္ဇာချို) | (ဒေါက်တာမင်းဇော်ဦး) |
| ရာထူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး | ဒုတိယညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၂။ ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့်အမှာစာကို ပြုစုတင်ပြအပ်ပါသည်။

[illegible]

၃။ [illegible]

၄။ [illegible]

ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)

PAT ၏ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/ နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁။ | Phwint Phyo thit Co., Ltd. | 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | (၁၄/၂၀၁၆) ၄-၄-၂၀၁၆ | မတည်ငွေရင်းပမာဏ၊ဝန်ထမ်းလစာ၊ စီးပွားရေး ဆိုင်ရာ တွက်ချက်မှုများအား မြန်မာကျပ် ငွေဖြင့် ပြင်ဆင်တွက်ချက်ဖော်ပြရန်<br>-ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်းအား ပြန်လည် ပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | က<br>ခ |

ကုမ္ပဏီအမည် - Phwint Phyo Thit Co., Ltd.

လုပ်ငန်း - မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီး မြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၉-၃-၂၀၁၆ | | မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ သဘောထားမှတ်ချက်အား ၂၆-၉-၂၀၁၆ မှ ရရှိခြင်း ဖြစ်သောကြောင့် အစည်းအဝေးတင်ပြရန် ကြန့်ကြာရခြင်း ဖြစ်ပါသည်။ |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၈-၄-၂၀၁၆ | |
| | (ခ) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၆-၄-၂၀၁၆ | ၂၁-၉-၂၀၁၆ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၂၈-၄-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း | ၃-၅-၂၀၁၆ | ၂၂-၆-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၄/၂၀၁၆) (၄-၄-၂၀၁၆) သို့ တင်ပြခြင်း | ၄-၄-၂၀၁၆ | | |
| ၄ | အစည်းအဝေးဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၂၇-၄-၂၀၁၆ | | |
| ၅ | အဆိုပြုလွှာပြင်ဆင်ပြီး ပြန်လည် တင်ပြလာသည့်နေ့ | | ၃၀-၉-၂၀၁၆ | |
| ၆ | ကော်မရှင်အစည်းအဝေးသို့ ပြန်လည်တင်ပြမည့် အကြိမ်နှင့် နေ့ရက် | | ၂၈-၁၀-၂၀၁၆<br>(၂၀ / ၂၀၁၆) | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | (၂၁၀) ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Phwint Phyo Thit Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၃၄၈၀၁.၉၆ သန်း (US$ ၁၅.၆၃၅ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| အရင်းကြေကာလ | - | ၇ နှစ် ၈ လ |
| IRR | - | ၁၂.၃၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၉၃၆.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၃၉၉၃.၅၇ သန်း | ကျပ် ၃၃၆၁.၄၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၂၅၉၇.၆၅ သန်း |
| ၆ | CSR (၂%) | - | ကျပ် ၂၀၁.၇၁ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၉၆.၅၄ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ဝန်ထမ်း (၄၃၄) ဦး<br>ပြည်တွင်းလုပ်သား (၄၃၄ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၄၉၃၂.၅၇ သန်း** | **ကျပ် ၆၂၅၈.၄၆ သန်း** |
| | Cost & Benefit | ၁ း ၃ | |

အကြောင်းအရာ။ Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီး မြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်းသည့် **အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် / | - Phwint Phyo Thit Co., Ltd. |
| | ကမကထပြုသူ အမည် | - ဦးရဲမြင့် |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / | - မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ (၅၄၇.၈၀)ဧက အနက် မြေဧရိယာ (၇.၅)ဧက |
| ၅။ | မြေပိုင်ရှင် | - မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီ |
| | မြေဧရိယာအကျယ်အဝန်း | - မြေဧရိယာ (၅၄၇.၈၀)ဧက အနက် မြေ ဧရိယာ (၇.၅)ဧက |
| ၆။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |

1 US$ =၁၂၀၀ ကျပ်

၇။ စုစုပေါင်းမတည်ငွေရင်း - ကျပ် ၃၄၈၀၁.၉၆ သန်း (US$ ၁၅.၆၃၅ သန်း အပါအဝင် )

ထည့်ဝင်သည့် အမျိုးအစား

| | USD (သန်း) | ကျပ် (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|
| အဆောက်အဦ | ၈.၂၇၃ | ၁၅၅၆၀.၀၂ | ၂၅၄၈၇.၆၂ |
| စက်ပစ္စည်းများနှင့် လျှပ်စစ်ပစ္စည်းများ | ၇.၃၆၂ | - | ၈၈၃၄.၃၄ |
| Land Use Premium | - | ၄၈၀.၀၀ | ၄၈၀.၀၀ |
| စုစုပေါင်း: | ၁၅.၆၃၅ | ၁၆၀၄၀.၀၂ | ၃၄၈၀၁.၉၆ |

၈။ ဝန်ဆောင်မှု (၆ ) နှစ်မြောက်

| စဉ် | အခန်း အမျိုးအစား | 3 Star Hotel | | 5 Star Hotel | |
|---|---|---|---|---|---|
| | | အခန်း အရေအတွက် | တစ်ခန်းငှားရမ်းခနှုန်း (US$) | အခန်း အရေအတွက် | တစ်ခန်းငှားရမ်းခနှုန်း (US$) |
| (က) | Superior Room | ၃၆ | ၈၀ | ၁၅၅ | ၈၀ |
| (ခ) | Standard Room | ၄၄ | ၅၀ | - | - |
| (ဂ) | Suite Room | ၁၂ | ၁၂၀ | ၁၆ | ၁၅၀ |
| (ဃ) | Deluxe Room | - | - | ၁၃၉ | ၁၂၀ |
| | စုစုပေါင်း | ၉၂ | | ၃၁၀ | |
| | Occupancy Rate ၇၀ % | | | | |

| | | |
|---|---|---|
| ၉။ | ဝင်ငွေ (၆နှစ်မြောက်) | - US$ ၁၃.၃၉ သန်း |
| | အသုံးစရိတ် (၆နှစ်မြောက်) | - US$ ၁၀.၈၉ သန်း |
| | အသားတင်အမြတ် (၆နှစ်မြောက်) | - US$ ၂.၅၀ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ် မြောက်) | |
| | ဝင်ငွေခွန် | - US$ ၀.၈၃ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၆၄ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၄၄၂ ဦး |
| | ပြည်တွင်း | ၄၃၄ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ် ပါသည်။) |
| | ပြည်ပ | ၈ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပြီးအမြင့် ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပါ သည်။) |
| ၁၂။ | အရင်းကြေကာလ | - ၇ နှစ် ၈ လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၂.၃၄ % |
| ၁၄။ | တစ်နှစ်လျှပ်စစ်ဓါတ်အား လိုအပ်ချက် | - ၅၆၀၀၀၀ ကီလိုဝပ် |
| ၁၅။ | မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ နှင့် ကုမ္ပဏီ တို့ ချုပ်ဆိုထားသည့် နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ပါ အဓိက အချက်များ | (က) စာချုပ် သက်တမ်းမှာ စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့မှစ၍ငှားရမ်းကာလ နှစ်ပေါင်း ၅၀ ဖြစ်ပြီး ယင်းကာလ ကုန်ဆုံးပြီး နောက်ထပ်တိုး သက်တမ်းအဖြစ် တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။ **အပိုဒ် ၉-၀၂**<br>(ခ) မြေ ၅၄၇.၈၀ ဧက အနက် မြေ ၂၁၇.၈၀ ဧကပေါ်တွင် ကုမ္ပဏီမှ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထားသော Master Plan ပါ စီးပွားရေး နှင့် လူနေအဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းကို လုပ်ကိုင်နိုင်ရန် အတွက် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက်ဖြင့် ကုမ္ပဏီသို့ အပြီးအပိုင် လွှဲပြောင်းပေးရမည်။ **အပိုဒ် ၂-၀၂**<br>(ဂ) ကုမ္ပဏီသည် မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ ငှားရမ်းရရှိ မြေ ဧရိယာ ၂၁၇.၈၀ ဧကကိုလွှဲပြောင်းရယူပြီး စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် သန်း ၁၄၀၀၀ အဖြစ် တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းရန် နှစ်ဦးနှစ်ဖက် သဘောတူကြပါသည်။ **အပိုဒ် ၆-၀၂** |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၄/မ-၁၅၅၄/၂၀၁၆(၉၅၃)
ရက်စွဲ၊၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၇ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ (၅၄၇.၈၀)ဧက အနက်မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့ မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပြီး ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက လုပ်ငန်းများစတင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် မန္တလေးမြို့တော်စည်ပင်သာယာ ရေးကော်မတီ နှင့် ကုမ္ပဏီ တို့ ချုပ်ဆိုထားသည့် နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေ အားကစား ဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်အားတင်ပြထားပါသည်။ စီမံကိန်းသဘောတူ စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) စာချုပ် သက်တမ်းမှာ စာချုပ်စတင် အကျိုးသက် ရောက်သည့်နေ့မှစ၍ ငှားရမ်းကာလနှစ်ပေါင်း ၅၀ ဖြစ်ပြီး ယင်းကာလ ကုန်ဆုံးပြီး နောက်ထပ်တိုး သက်တမ်းအဖြစ် တစ်ကြိမ်လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ်သက်တမ်းတိုးမြှင့်နိုင်သည်။ **အပိုဒ် ၉-၀၂**

(ခ) မြေဧရိယာ ၅၄၇.၈၀ ဧက အနက် မြေဧရိယာ ၂၁၇.၈၀ ဧက ပေါ် တွင် ကုမ္ပဏီမှ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထားသော Master Plan ပါ စီးပွားရေး နှင့် လူနေ အဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းကို လုပ်ကိုင်နိုင်ရန် အတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်း သဘောတူညီချက်ဖြင့် မြေအသုံးချမှု ပရီမီယံကြေးများ တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းပြီး ကုမ္ပဏီသို့အပြီး အပိုင်လွှဲပြောင်းပေး ရမည်။ **အပိုဒ် ၂-၀၂**

(ဂ) ကုမ္ပဏီမှ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထားသော Master Plan ပါ မြေနေရာများတွင် စီးပွားရေး နှင့် လူနေအဆောက်အအုံများ တည်ဆောက်ရန် အတွက် နှစ်ဖက်ညှိနှိုင်းသဘောတူညီချက်အရ မြေအသုံးချမှု ပရီမီယံကြေးများ တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းပြီး အပိုဒ် ၂-၀၂ ပါ မြေဧရိယာ ၂၁၇.၈၀ ဧက နှင့် ယင်း မြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သောပစ္စည်း ၊ မရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို အပြီးအပိုင် လွှဲပြောင်းပေးရမည်။ **အပိုဒ် ၃-၀၂**

(ဃ) ကုမ္ပဏီသည် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီမှ အပိုဒ် ၃-၀၂ ပါ မြေဧရိယာ(၂၁၇.၈၀)ဧကကို လွှဲပြောင်းရယူပြီး စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးအတွက် မြေအသုံးချမှု ပရီမီယံကြေး အဖြစ် ကျပ်သန်း ၁၄၀၀၀ အဖြစ် တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းရန် နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။ **အပိုဒ် ၆-၀၂**

၄။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၃၄၈၀၁.၉၆ သန်း (US$ ၁၅.၃၆၅ သန်း အပါအဝင် ) ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

**1 US$ = ၁၂၀၀ ကျပ်**

| | US$ (သန်း) | ကျပ် (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|
| (က) အဆောက်အဦ | ၈.၂၇၃ | ၁၅,၅၆၀.၀၂ | ၂၅၄၈၇.၆၂ |
| (ခ) စက်ပစ္စည်းများနှင့် လျှပ်စစ်ပစ္စည်းများ | ၇.၁၆၂ | - | ၈၈၁၄.၃၄ |
| (ဂ) Land Use Premium | - | ၄၈၀.၀၀ | ၄၈၀.၀၀ |
| **စုစုပေါင်း** | ၁၅.၆၁၅ | ၁၆၀၄၀.၀၂ | ၃၄၈၀၁.၉၆ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း ၄၁၄ ဦးနှင့် ပြည်ပမှ ဝန်ထမ်း ၈ ဦး၊ စုစုပေါင်း ၄၄၂ ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပါ သည်။

၆။ အဆိုပြုလုပ်ငန်းတွင် ဟိုတယ်အခန်းအမျိုးအစား (၄)မျိုးပါဝင်ပြီး စုစုပေါင်း ၄၀၂ ခန်း ရှိပါသည်။ အစားအသောက် နှင့် အဖျော်ယမကာရောင်းချခြင်းမှလည်း ဝင်ငွေရရှိမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆)နှစ် မြောက်တွင် ဝန်ဆောင်နိုင်မည့် ရာခိုင်နှုန်းမှာ စုစုပေါင်း အခန်းအရေအတွက်၏ ၇၀ ရာခိုင်နှုန်း ဖြစ်ပြီး အခန်းအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အခန်း အမျိုးအစား | 3 Star Hotel | | 5 Star Hotel | |
|---|---|---|---|---|---|
| | | အခန်း အရေအတွက် | တစ်ခန်း ငှားရမ်း ခနှုန်း (US$) | အခန်း အရေအတွက် | တစ်ခန်း ငှားရမ်း ခနှုန်း (US$) |
| (က) | Superior Room | ၃၆ | ၈၀ | ၁၅၅ | ၈၀ |
| (ခ) | Standard Room | ၄၄ | ၅၀ | - | - |
| (ဂ) | Suite Room | ၁၂ | ၁၂၀ | ၁၆ | ၁၅၀ |
| (ဃ) | Deluxe Room | - | - | ၁၃၉ | ၁၂၀ |
| | **စုစုပေါင်း** | ၉၂ | | ၃၁၀ | |
| | Occupancy Rate ၇၀ % | | | | |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

**1 US$ = ၁၂၀၀ ကျပ်**

| စဥ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃.၃၉ |
| (ခ) | အသုံးစရိတ် | ၁၀.၈၉ |
| (ဂ) | အသားတင်အမြတ် | ၂.၅၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၀.၈၃ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၀.၆၄ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၂.၃၄ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ဖော်ပြပါအတိုင်း ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း။

(၂) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ပါကြောင်း။

(၅) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးမှ ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန် ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ် များအား လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ် စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန် ပတ်ဝန်းကျင် ထိခိုက် မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင် ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ အစီရင်ခံ ရေးသားတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေး မည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။)**

(ဂ) ဟိုတယ်နှင့် **ခရီးသွားလာရေး ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) ခရီးသွားလုပ်ငန်းကို အထောက်အကူပြုသော စီမံကိန်းတစ်ရပ် ဖြစ်သော်လည်း မန္တလေးမြို့သို့ ပြည်ပခရီးသည်ရောက်ရှိမှု၊ ပြည်တွင်း ခရီးသွား ဧည့်သည် တည်းခိုမှုနှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ ဖွံ့ဖြိုးမှုတို့သည် အချိုးညီရန် လိုအပ်ပါကြောင်း။

(၂) ဌားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါကြောင်း။

(၃) ဟိုတယ် ဧရိယာသည် ဂေါက်ကွင်းဧရိယာနှင့် နီးကပ်သဖြင့် တည်းခိုသည့် ဧည့်သည်များအား ဂေါက်သီးရိုက်ကစားမှုမှ မတော်တဆ ဖြစ်ပွားမှု မဖြစ်စေရန် အကာအကွယ် ဆောင်ရွက်မှုများ ကြိုတင်စီမံထားသင့်ပါကြောင်း။

(၄) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာသင်တန်းဆင်း လက်မှတ်များ တင်ပြနိုင်ရန် လိုအပ်သဖြင့် ကြိုတင် စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

(၅) ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့်ကို ဤဝန်ကြီးဌာနသို့ ဆက်လက် လျှောက်ထားရယူသွားရန် လိုအပ်ပါကြောင်း။

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) မန္တလေးတိုင်းဒေသကြီးတွင် တည်ဆောက်မည့် ဟိုတယ်တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း။

တင်ပြပေးမည်ဖြစ်ကြောင်း၊ မြေဂရန်ကိစ္စနှင့်ပတ်သက်၍ လောလောဆယ်လျှောက်ထား ...လည်း မြေစာရင်းဦးစီးဌာနသို့ မေးမြန်းပြီး တင်ပြပေးမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင် ...ရာတွင် တစ်ဘက်နိုင်ငံမှ လျှပ်စစ်မီးရယူထားပြီး ထရန်စဖော်မာနှင့် မီးစက် တပ်ဆင်ထားပြီး ...း၊ စက်ပစ္စည်းများအား ပြည်တွင်း၊ပြည်ပမှ ဝယ်ယူတင်သွင်းရန်ရှိပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ...ခွင့်ပြုမိန့်ရရှိပြီးမှ တင်သွင်းမည်ဖြစ်၍ အသေးစိတ်စာရင်းတင်ပြပေးမည်ဖြစ်ကြောင်း၊ မြန်မာ့ ...ပ်ငန်းနှင့် ချိတ်ဆက်ပြီး လက်ရှိလုပ်ငန်းအပြင် အခြားဆက်စပ်လုပ်ငန်းများ လုပ်ကိုင်ရန်ရှိပါ ...င်း၊ အခြားလုပ်ငန်းများအား ယခုကုမ္ပဏီအမည်နှင့် မဟုတ်ဘဲ အခြားကုမ္ပဏီအမည်နှင့် လုပ်ကိုင် ...ည်ဖြစ်ကြောင်း၊ မြန်မာ့သစ်လုပ်ငန်းမှ သတ်မှတ်ထားသည့် အမျိုးအစားများအတိုင်း ကုန်ချောထုတ် ...ုပ်မည်ဖြစ်ကြောင်း၊ လက်ရှိလုပ်ငန်းဆောင်ရွက်ရာတွင် ကုန်ချောများအား Normal Trade အပြင် Border Trade သို့ တင်ပို့နေပါကြောင်း၊ ယခုအဆိုပြုလုပ်ငန်းကိုလည်း ထိုကဲ့သို့ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် တစ်နှစ်လျှင် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထွက်ရှိမှုကို ဖော်ပြပေးမည် ...စ်ကြောင်း၊ လက်ရှိတပ်ဆင်ထားသော စက်ပစ္စည်းစာရင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် ထပ်မံတိုးချဲ့မည့် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ တပ်ဆင်မည့် စက်ပစ္စည်းစာရင်း သီးခြားစီ ဖော်ပြပေးမည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် စာလုံးပေါင်းများ မှားနေခြင်းအပါအဝင် လိုအပ်ချက်များနှင့် ပြင်ဆင်ပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Tin Myint Yee Trading Co., Ltd. မှ နိုင်ငံတကာအဆင့်မီ သစ်ခွဲသား၊ သစ်ပါးလွှာနှင့် သစ်အချောထည် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) မူလထည့်ဝင်ထားသည့် မတည်ငွေရင်းပမာဏ၊ စက်ပစ္စည်းစာရင်းနှင့် ထပ်မံတိုးမြှင့်မည့် မတည်ငွေရင်းပမာဏ၊ စက်ပစ္စည်းစာရင်း ခွဲခြားတင်ပြရန်။

(ခ) တစ်နှစ်ကုန်ကြမ်းအသုံးပြုမှုပမာဏနှင့် ကုန်ချောထုတ်လုပ်မှုပမာဏ တင်ပြရန်။

(ဂ) ကိုယ်ပိုင်သစ်တောစိုက်ခင်းရှိသည့်နေရာနှင့် မြေအကျယ်အဝန်းတင်ပြရန်။

(ဃ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

**၂၀။ Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ (၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမင်းဇော်ဦးက အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးရဲမြင့်က မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်ရှိ မြေဧရိယာ(၇.၅)ဧကပေါ်တွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိ

ကုန်ဒေါ်လာ ၂၈.၆၀ သန်း ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ နှစ်(၅၀)ဖြစ်ကြောင်း၊ 3 Star ဟိုတယ်တွင် အခန်း(၉၂)ခန်းရှိပြီး 5 Star ဟိုတယ်တွင် အခန်း(၃၁၀)ခန်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၄၃၄)ဦးနှင့် ပြည်ပဝန်ထမ်း(၈)ဦးခန့်ထားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက ဆောက်လုပ်မည့်ဟိုတယ်များမှာ အထပ်မည်မျှဖြစ်သည်ကို ဖော်ပြပေးရန်လိုကြောင်း၊ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်၍ မတည်ငွေရင်းပမာဏ၊ ဝန်ထမ်းလစာနှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများအား ကျပ်ငွေဖြင့် ပြင်ဆင်တွက်ချက်ပေးရန်လိုကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် တည်နေရာပြမြေပုံနှင့် မြေအထောက်အထား တင်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်စုစုက ကုမ္ပဏီသည် လုပ်ငန်းဆောင်ရွက်ရာ၌ ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို ကြိုတင်ရယူလေ့လာရန်လိုကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးပါက ဟိုတယ်လုပ်ငန်းလိုင်စင် လျှောက်ထားရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်ခိုင်က လုပ်ငန်းဆောင်ရွက်မည့်မြေအား မြေဂရန်ရရှိအောင် ဆက်လက်ဆောင်ရွက်ရန်လိုကြောင်း၊ မြေဧရိယာတစ်ခုလုံးမှာ ဧကရာချီရှိနေသဖြင့် အဆိုပါမြေပေါ်တွင် ရွာ၊ သစ်တောကြိုးဝိုင်း၊ သာသနိက အဆောက်အဦ၊ ဘုန်းကြီးကျောင်း၊ ကန်၊ ချောင်း စသည်တို့ ရှိနိုင်ကြောင်း၊ မြေပုံပေါ်ရှိ အခြေအနေနှင့် လက်တွေ့မြေပြင်ရှိ အခြေအနေမှာ မတူသည်များ ရှိနိုင်၍ ကုမ္ပဏီမှ ကွင်းဆင်းကြည့်ရှုပြီး ပြင်ဆင်ထားရန်လိုမည်ဟု အကြံပြုလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးတင်ဦးက 3 Star ဟိုတယ်နှင့် 5 Star ဟိုတယ်တို့တွင် Elevator အရေအတွက် မည်မျှစီပါရှိမည်ကို သိလိုပြီး တစ်စီးလျှင် Kg မည်မျှရှိကြောင်းနှင့် လူဦးရေမည်မျှစီးနိုင်သည်ကို သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမျိုးတင့်အောင်က အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းများအား မြန်မာကျပ်ငွေဖြင့် လစာပေးချေမည်ဖြစ်၍ ဝန်ထမ်းလစာအား ကျပ်ငွေဖြင့် ပြင်ဆင်တွက်ချက်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးဇော်မိုးက ကုမ္ပဏီသည် 3 Star ဟိုတယ်နှင့် 5 Star ဟိုတယ်ဆောက်လုပ်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာ၌ စုစုပေါင်း အခန်း(၃၉၂) ခန်းပါရှိမည်ဖြစ်၍ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)အစီရင်ခံစာအား Third Party ထံ အပ်နှံရေးဆွဲရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် (အငြိမ်းစား) ဒေါ်မြသူဇာ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် လုပ်ကိုင်မည်ဖြစ်၍ မတည်ငွေရင်းပမာဏအား မြန်မာကျပ်ငွေဖြင့် တင်ပြပေးစေလိုကြောင်း၊ ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် ဘိလပ်မြေပါဝင်နေသဖြင့် ပြည်တွင်း၌ဝယ်ယူရရှိနိုင်သောကြောင့် ပြန်လည်စိစစ်ပေးရန်လိုကြောင်း၊ စီးပွားရေးဆိုင်ရာတွက်ချက်မှုများကိုလည်း ပြင်ဆင်တွက်ချက်ပေးရန်လိုကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ မည်သည့်နိုင်ငံမှ ရင်းနှီးမြှုပ်နှံသူ ဖိတ်ခေါ်၍ ဖက်စပ်လုပ်ကိုင်ရန် စဉ်းစားထားသည်ကို သိလိုကြောင်း၊ ဆောက်လုပ်မည့် ဟိုတယ်ဒီဇိုင်းအား ပြည်တွင်း၊ပြည်ပ မည်သို့အပ်နှံရေးဆွဲသည်ကို သိလိုပြီး စုစုပေါင်းမတည်ငွေရင်းပမာဏထဲတွင် ဒီဇိုင်းရေးဆွဲခတန်ဖိုး ထည့်သွင်းဖော်ပြရန်လိုကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် ရေ၊ မီး ရရှိရန် Centralized System နှင့် ထားရှိရန်ရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ်(၁) ဦးဆန်းမြင့်က ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းအား Developer အနေဖြင့် သို့မဟုတ် Investor အနေဖြင့် လုပ်ကိုင်မည်ကိုသိလိုပြီး ပြည်ပကုမ္ပဏီနှင့် ဖက်စပ်ဆောင်ရွက်ရန်အစီအစဉ်ရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးရဲမြင့်က အဆိုပြုချက်တွင် 3 Star ဟိုတယ်နှင့် 5 Star ဟိုတယ်တို့၏ အထပ်အရေအတွက် ဖော်ပြပေးမည်ဖြစ်ကြောင်း၊ 3 Star ဟိုတယ်တွင် Elevator (၄)စင်းပါရှိပြီး 5 Star ဟိုတယ်တွင် Elevator (၆)စင်း ပါဝင်ကြောင်း၊ Elevator တစ်စင်းလျှင် လူ(၁၃)ဦးစီးနိုင်ပြီး 1000 Kg ရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းကို Developer အနေဖြင့်သာမက မိမိတို့ကုမ္ပဏီမှ Investor အနေဖြင့်ပါ လုပ်ကိုင်မည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းအား ပြည်ပကုမ္ပဏီနှင့် ဖက်စပ်လုပ်ကိုင်ရန် အစီအစဉ်ရှိပြီး တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ ခေါ်ယူရန်စဉ်းစားထားပါကြောင်း၊ ပြည်ပမှ ကျပ် ၁၁ ဘီလီယံတန်ဖိုးရှိ စက်ပစ္စည်းများ တင်သွင်းပြီးဖြစ်ပါကြောင်း၊ ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းအား ပြန်လည် စိစစ်ပေးမည်ဖြစ်ကြောင်း၊ ယခင်က လမ်းဖောက်လုပ်ခြင်းလုပ်ငန်းအား ဂျပန်နိုင်ငံနှင့် ပူးပေါင်းလုပ်ကိုင်ပြီး ဆေးရုံ လုပ်ငန်းအတွက် ထိုင်းနိုင်ငံနှင့် ဆက်သွယ်ထားပါကြောင်း၊ စီမံကိန်းတစ်ခုလုံးအား မိမိကုမ္ပဏီတစ်ခုတည်းမှ လုပ်ကိုင်မည် မဟုတ်ဘဲ အခြားကုမ္ပဏီများနှင့်လည်း ပူးပေါင်းလုပ်ကိုင်မည်ဖြစ်ကြောင်း၊ ဆောက်လုပ်မည့် ဟိုတယ်ဒီဇိုင်းအား ပြည်တွင်းပညာရှင်အပါအဝင် ပြင်သစ်နိုင်ငံမှ ပညာရှင်ခေါ်ယူပြီး ရေးဆွဲထားပါကြောင်း၊ ရေ၊ မီး ရရှိရေးအတွက် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ ချမှတ်ထားသည့်အတိုင်း လုပ်ကိုင်မည်ဖြစ်ကြောင်း၊ လိုအပ်ချက်များနှင့် ပြင်ဆင်တင်ပြပေးရန်ရှိသည်များကို ပြန်လည်ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား တစ်ဖက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) မတည်ငွေရင်းပမာဏ၊ ဝန်ထမ်းလစာ၊ စီးပွားရေးဆိုင်ရာတွက်ချက်မှုများအား မြန်မာကျပ်ငွေဖြင့် ပြင်ဆင်တွက်ချက်ဖော်ပြရန်။

(ခ) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

**၂၁။ Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က) ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ (၁၉၇.၈)ဧကတွင် ရေတံခွန်တောင် စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမင်းဇော်ဦးက အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးရဲမြင့်က မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်ရှိ မြေဧရိယာ(၁၉၇.၈၀)ဧကပေါ်တွင် ရေတံခွန်တောင် စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၂၁၈.၅၀ သန်း အပါအဝင် ကျပ် ၄၄၀,၂၀၀.၄၀ ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ နှစ်(၅၀)ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၈၃)ဦး ခန့်ထားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကုန်သွယ်ရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်မြင့်မြင့်ထွန်းက ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် ပြည်တွင်း၌ ဝယ်ယူရရှိနိုင်သောပစ္စည်းများ ပါဝင်နေသဖြင့် အဆိုပါပစ္စည်းများအား ပြည်တွင်း၌သာ ဝယ်ယူစေလိုကြောင်း၊ ကုမ္ပဏီအနေဖြင့် ပြည်ပမှမော်တော်ယာဉ်များ တင်သွင်းသည့်အခါ မော်တော်ယာဉ်ကြီးကြပ်ရေးကော်မတီမှ သတ်မှတ်ထားသည့် Model ၊ Year နှင့် ကိုက်ညီသောယာဉ်များကိုတင်သွင်းရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးဇော်မိုးက ကုမ္ပဏီသည် စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ငှားရမ်းခြင်း လုပ်ငန်းဆောင်ရွက်ရာ၌ အသုံးချမည့် ဧရိယာ စတုရန်းမီတာ ၅၀၀၀၀၀ ကျော်ရှိ၍ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) အစီရင်ခံစာအား Third Party ထံ အပ်နှံရေးဆွဲရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက အဆိုပြုချက်တွင် စီးပွားရေးဆိုင်ရာတွက်ချက်မှုများမှာ ပြည့်စုံမှုမရှိ၍ ပြင်ဆင်တွက်ချက်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| (၂) တစ်နှစ်ကုန်ကြမ်းအသုံးပြုမှုပမာဏနှင့် ကုန်ချောထုတ်လုပ်မှုပမာဏ တင်ပြရန်။<br>(၃) ကိုယ်ပိုင်သစ်တောစိုက်ခင်းရှိသည့်နေရာနှင့် မြေအကျယ်အဝန်း တင်ပြရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | |
| (ထ) Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက်ကွင်းအမှတ် (၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) မတည်ငွေရင်းပမာဏ၊ ဝန်ထမ်းလစာ၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများအား မြန်မာကျပ်ငွေဖြင့် ပြင်ဆင်တွက်ချက်ဖော်ပြရန်။<br>(၂) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့<br>Phwint Phyo Thit Co., Ltd. |
| (ဒ) Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက်ကွင်းအမှတ် (၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၁၉၇.၈)ဧကတွင် ရေတံခွန်တောင် စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) ရင်းနှီးမြှုပ်နှံမှုပုံစံ နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုများ ပြင်ဆင်တင်ပြရန်။<br>(၂) ပြည်ပမှ တင်သွင်းမည့်ပစ္စည်းစာရင်းပြန်လည်စိစစ်တင်ပြရန်။<br>(၃) စီမံကိန်းတစ်ခုချင်းစီအလိုက် လူစီးယာဉ်၊ လုပ်ငန်းသုံးယာဉ် ခွဲခြားတင်ပြရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့<br>Phwint Phyo Thit Co., Ltd. |

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- |
| မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပန်းသိဂီရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်မှ နှစ်ရှည်သီးနှံ(သရက်သီး၊ကျွဲကောသီး) စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍- | အဆိုပြုချက် စိစစ်ရေးအဖွဲ့ |
| (၁) တစ်ဧကချင်းစိုက်ပျိုးမည့် ကုန်ကြမ်းစာရင်းတင်ပြရန်။ | |
| (၂) တည်ဆောက်ရေးကာလ ပြင်ဆင်တင်ပြရန်။ | ပန်းသိဂီ ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် |
| (၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | |

၂၄။ အစည်းအဝေးကို ည(၇း၃၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

၂၃-၄-၂၀၁၆

(စန်းစန်းမြင့်)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရကာ-၆/ ၁/၂၀၁၆ ( ၀၂၂၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၂၁ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူများအားလုံး

DDG 47
61.4

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၅ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်များ တောင်းခံခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Pwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ် (၅၄၈)၊ ချောင်းကြီး၀ မြောက်ကွင်းအမှတ် (၅၄၉)၊ ချောင်းကြီး၀ အရှေ့(အိုင်ကြီး)ကွင်းအမှတ် (၅၅၀)ရှိမန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၅၄၇.၈၀)ဧကအနက်မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့်မှ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန တို့သို့ သဘောထားတောင်းခံမည့်**(စာချော)**များတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **အတည်ပြုသူ** |
|---|---|---|---|
| လက်မှတ် | (signature) 5/4/16 | (signature) 5/4/16 | (signature) 5/4 |
| အမည် | (စိုးသီဟ) | (ရွှေစင်ထက်) | (မီမီသဉ္ဇာချို) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်တောင်းခံခြင်းစာအား လက်မှတ်ရေးထိုးပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

(signature) 5/4/16

ညွှန်ကြားရေးမှူး

၄။ သက်ဆိုင်ရာဌာနများ သို့ သဘောထားမှတ်ချက်တောင်းခံမည့် စာချော များအား ဒုတိယညွှန်ကြားရေးမှူးမှ လက်မှတ်ရေးထိုးပေးပါရန်တင်ပြအပ်ပါသည်။

(signature) 6/4/16

PPT Ns INV-3

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
ဖက်(စ်)နံပါတ် ၀၁-၆၅၈၀၇၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ရက-၄/မ-၁၅၅၄/၂၀၁၆(၅၄၄-၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီ လ ၄ ရက်

သို့

**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မန္တလေး တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၁၁-၂-၂၀၁၆)ရက်စွဲပါစာ အမှတ်၊ ၁/၁-၁/၂ ဦး ၆ (၁၅၀)

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ(၅၄၇.၈၀)ဧက အနက် မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့်မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၇)၊ ပုဒ်မ (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို ကော်မရှင်က စိစစ်ရာတွင် သက်ဆိုင်ရာ ပြည်နယ်/ တိုင်းဒေသကြီး အစိုးရတို့၏ သဘောထားကို ရယူရန်လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို ဆောလျင်စွာ စိစစ်ပေးရမည် ဖြစ်ပါသဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အောက်ပါသဘောထားမှတ်ချက်အား ဤစာလက်ခံရရှိသည့် နေ့မှ ခုနှစ်ရက်အတွင်း ဝန်ကြီးချုပ်(သို့မဟုတ်)ဝန်ကြီးချုပ်က တာဝန်ပေးအပ်သူ တစ်ဦးဦးက လက်မှတ်ရေးထိုး ပြန်ကြားပေးပါရန် အဆိုပြုလွှာ(တစ်)စုံအား ပူးတွဲ ပေးပို့လျက်ညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ- မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်-မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ-မရှိ၊

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်။

၄။ အထက်အပိုဒ်(၃)ပါ အချက်များအပြင် အဆိုပြုလွှာပါ Master Plan, Conceptual Drawing, Bill of Quantities, Building Cost နှင့် နည်းပညာပိုင်းဆိုင်ရာ ရှုထောင့်များကိုပါ ထည့်သွင်းစဉ်းစား၍ သဘောထားမှတ်ချက်များ ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဦးရဲမြင့်၊ ဖုန်းနံပါတ် ၀၉-၄၀၂၇၇၀၀၆၆၊ ၀၉-၃၂၃၃၃၃၈** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

(အောင်နိုင်ဦး)
ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ အဆောက်အအုံဌာန(အဆိုပြုလွှာပူးတွဲ ၁ စောင်)

မန္တလေးတိုင်းဦးစီးမှူး၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာန

Phwint Phyo Thit Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇ 　　　　စာအမှတ်၊ ရက- ၄/မ-၁၅၅၄/၂၀၁၆( ၅၃၄ )

☎ ၀၁-၆၅၈၁၂၉ 　　　　ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီ လ ၆ ရက်

သို့

အဖွဲ့ခေါင်းဆောင်

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

One Stop Service အဖွဲ့

အကြောင်းအရာ။ 　**သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ 　မန္တလေး တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၁၁-၂-၂၀၁၆)ရက်စွဲပါစာ အမှတ်၊ ၁/၁-၁/၂ဦး ၆ (၁၅၀)

၁။ 　မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ(၅၄၇.၈၀)ဧက အနက် မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့်မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ 　မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၇)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကိုတောင်းခံရယူရန် လိုအပ်ပါသည်။

၃။ 　အဆိုပြုချက်ပါလုပ်ငန်းဆောင်ရွက်မည့်နေရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ်တစ်ပတ် အတွင်း** ပြန်ကြား ပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဦးရဲမြင့်၊ ဖုန်းနံပါတ် ၀၉-၄၀၂၇၇၀၀၆၆၊ ၀၉-၃၂၃၃၃၃၃၈** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်) စောင် ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မန္တလေးတိုင်းဦးစီးမှူး၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာန
Phwint Phyo Thit Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇ စာအမှတ်၊ ရက-၄/မ-၁၅၅၄/၂၀၁၆(၃၄၄-ဃ )

☎ ၀၁-၆၅၈၁၂၉ ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဧပြီလ ၆ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မန္တလေး တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၁၁-၂-၂၀၁၆) ရက်စွဲပါစာ အမှတ်၊ ၁/၁-၁/၂ ဦး ၆ (၁၅၀)

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ(၅၄၇.၈၀)ဧက အနက် မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့်မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ တစ်ဆင့် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပါ လုပ်ငန်းအဆိုပြုလွှာနှင့် စပ်လျဉ်း၍ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ အောက်ပါသဘောထားမှတ်ချက် အား **ရက်သတ္တပတ်တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဦးရဲမြင့်၊ ဖုန်းနံပါတ်** ၀၉-၄၀၂၇၇၀၀၆၆၊ ၀၉-၃၂၃၃၃၃၈ သို့ ဆက်သွယ်ဆောင်ရွက် နိုင်ပါရန် အဆိုပြုလွှာ (တစ်)စောင်အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ဝန်ဆောင်ခ နှုန်းထားများ တင်ပြထားမှုများသည် ဆီလျော်မှု ရှိ-မရှိ၊

(ခ) ဖော်ပြပါ အဆိုပြုချက်နှင့် ပတ်သက်၍ ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာန ၏ သဘောထားနှင့် အကြံပြုချက်။

(အောင်နိုင်ဦး)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

PPT(H)INV-3.com

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

မန္တလေးတိုင်းဦးစီးမှူး၊ စီမံကိန်းရေးဆွဲရေးဦးစီးဌာန

Phwint Phyo Thit  Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၃၀ ရက်

အကြောင်းအရာ။ **Pwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ ကွင်းအမှတ် (၅၄၈)၊ ချောင်းကြီး၀ မြောက်ကွင်း အမှတ် (၅၄၉)၊ ချောင်း၀ကြီး အရှေ့(အိုင်ကြီး)ကွင်း အမှတ် (၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီပိုင်မြေဧရိယာ (၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်း ဒေသကြီး အစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Pwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ် (၅၄၈)၊ ချောင်းကြီး၀ မြောက်ကွင်းအမှတ် (၅၄၉)၊ ချောင်း၀ကြီး အရှေ့(အိုင်ကြီး)ကွင်းအမှတ် (၅၅၀)ရှိမန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင်မြေဧရိယာ (၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးမြို့တော်စည်ပင် သာယာရေး ကော်မတီမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၄/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ (စာချော)**အား ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **အတည်ပြုသူ** |
|---|---|---|---|
| လက်မှတ် | 30/3/16 | 30/3/16 | 30/3 |
| အမည် | (စိုးသီဟ) | (ရွှေစင်ထက်) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ PAT (14/2016) အစည်းအဝေးသို့ တင်ပြမည့် အမှာစာ အား တင်ပြအပ် ပါသည်။

30/3/16

( ဒေါ်မင်းချော်ဦး )

ညွှန်ကြားရေးမှူး

၄။

လျှို့ဝှက်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကက-၄/ မ-၁၅၅၄/၂၀၁၆( ၂၀၄ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၃၀ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ် (၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ် (၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီပိုင်မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ(၃၃၀)ဧက အနက် မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့်မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်း ကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ (၃၃၀)ဧက အနက် မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် အဆိုပြုချက် တင်ပြခြင်း အပေါ် အဖွဲ့ဝင်များ နှင့်ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်း နှင့် မညီညွတ်သည့် ကိစ္စ များကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

လျှို့ဝှက်

**Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ချောင်းကြီးဝမြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ်(၅၅၀)ရှိ မြေဧရိယာ(၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - | Phwint Phyo Thit Co., Ltd.<br>ဦးရဲမြင့် |
| ၂။ | ဖွဲ့စည်းမှုပုံစံ | - | မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - | 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၃။ | တည်နေရာ | - | မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ချောင်းကြီးဝ မြောက်ကွင်းအမှတ်(၅၄၉)၊ချောင်းကြီးဝ အရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀-က)ရှိ မြေဧရိယာ(၅၄၇.၈၀)ဧက အနက် (၇.၅)ဧက |
| | မြေအကျယ်အဝန်း | - | မြေဧရိယာ (၅၄၇.၈၀)ဧက အနက် (၇.၅)ဧက |
| | မြေပိုင်ရှင် | - | မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - | ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအတွက် ဖော်ပြထားခြင်းမရှိပါ။ |
| ၅။ | **စုစုပေါင်းမတည်ငွေရင်းပမာဏ** | - | **US$ ၂၈.၆၀ သန်း** |
| | ငွေသား | - | US$ ၁၄.၇၁ သန်း |
| | စက်ပစ္စည်းစာရင်းများနှင့် လျှပ်စစ်ပစ္စည်းများ | - | US$ ၁၃.၈၉ သန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - | ၅၀ နှစ် |
| ၇။ | တည်ဆောက်ရေးကာလ | - | ၂ နှစ် |
| ၈။ | ဝန်ဆောင်နိုင်မှု (၆ နှစ်မြောက်) | | (see table below) |
| ၉။ | ဝင်ငွေ (၆ နှစ်မြောက်) | - | US$ ၁၃.၄၀ သန်း |
| ၁၀။ | အသားတင်အမြတ် (၆ နှစ်မြောက်) | - | US$ ၂.၇၂ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - | **၄၄၂ ဦး** |
| | ပြည်တွင်း | - | ၄၃၄ ဦး (ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂၀၈ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂၅၀၀ ဖြစ်ပါ သည်။ |
| | ပြည်ပ | - | ၈ ဦး (ပြည်ပ မှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၃,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၅,၀၀၀ ဖြစ်ပါ သည်။ |

| စဉ် | အမျိုးအစား | 3 Star Hotel | | အမျိုးအစား | 5 Star Hotel | |
|---|---|---|---|---|---|---|
| | | **အခန်းအရေအတွက်** | **တစ်ခန်းငှားရမ်းခနှုန်း (US$)** | | **အခန်းအရေအတွက်** | **တစ်ခန်းငှားရမ်းခနှုန်း (US$)** |
| (က) | Superior Room | ၃၆ | ၈၀ | Superior Room | ၁၅၅ | ၈၀ |
| (ခ) | Standard Room | ၄၄ | ၅၀ | Deluxe Room | ၁၃၉ | ၁၂၀ |
| (ဂ) | Suite Room | ၁၂ | ၁၂၀ | Suite Room | ၁၆ | ၁၅၀ |
| | **စုစုပေါင်း** | **၉၂** | | | **၃၁၀** | |

| | | | |
|---|---|---|---|
| ၁၂။ | အရင်းကြေကာလ | - | ၇ နှစ် ၄ လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - | ၁၂.၇၄ % |
| ၁၄။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | | |
| | ဝင်ငွေခွန် | - | US$ ０.၉၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - | US$ ０.၆၄ သန်း |
| ၁၅။ | အခြားတင်ပြချက် | - | အဆိုပြုလုပ်ငန်း ဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ ကုမ္ပဏီ မှ Conceptual Plan အား ဖော်ပြထားပါသည်။ |
| | | - | ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ချမှတ်ထားသည့် ပြဋ္ဌာန်းချက်များအား လိုက်နာဆောင်ရွက်မည့် ကတိဝန်ခံစာ၊ မီးဘေးကြိုတင်ကာကွယ်ရေး ဆောင်ရွက်မည့် အစီအစဉ်၊ ရေးဆိုးစွန့်ပစ်မှုအစီအစဉ်၊ လုပ်သားများသက်သာချောင်ချိရေး၊ လုပ်ငန်းခွင်သာယာရေးဆောင်ရွက်မည့် အစီအစဉ်များအား တင်ပြထားပါသည်။ |
| | | - | ကုမ္ပဏီမှ CSR(Corporate Social Responsibility) အတွက် Net Profit ၏ ၂% ကို သုံးစွဲရန် လျာထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ နှင့် ကုမ္ပဏီ တို့ ချုပ်ဆိုထားသည့် နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ပါ အဓိက အချက်များ | - | သဘောတူစာချုပ်အရ ဆောင်ရွက်မည့် လုပ်ငန်းအမျိုးအစားများမှာ -<br>(က) နိုင်ငံ တကာအဆင့်မီဂေါက်ကွင်း အသစ်ဖောက်လုပ်ခြင်း၊ Club House ဆောက်လုပ်ခြင်းလုပ်ငန်း၊ အပန်းဖြေ အားကစားဥယျာဉ်တည်ဆောက်ခြင်းလုပ်ငန်း။ **အပိုဒ် ၂-၀၁**<br>(ခ) စီးပွားရေး နှင့် လူနေအဆောက်အဦများ တည်ဆောက်ခြင်း လုပ်ငန်း **အပိုဒ် ၂-၀၂** |
| | | | စာချုပ်ပါ တည်ဆောက်မည့် အဆောက်အဦအမျိုးအစားနှင့် မြေဧရိယာများမှာ- **အပိုဒ်(၂-၀၁ နှင့် ၂-၀၂)**<br>**စဉ်** **အဆောက်အဦ** **မြေဧရိယာ**<br>၁ ဂေါက်ကွင်း၊ Club Houseနှင့် အပန်းဖြေအားကစား ဥယျာဉ် - ၃၀၂ ဧက - ၂၈ ဧက<br>၂ စီးပွားရေးနှင့်လူနေအိမ်အဆောက်အဦများ - ၂၁၇.၈ ဧက |
| | | - | မြေငှားရမ်းကာလမှာ ကနဦး(၅၀) နှစ်နှင့် နောက်ထပ် သက်တမ်းတိုး (၁၀)နှစ်နှစ်ကြိမ်ဖြစ်ပါသည်။ **အပိုဒ် ၄-၀၁ နှင့် ၄-၀၂** |
| | | - | စာချုပ်အရ မြေအသုံးချမှု ပရီမီယံကြေးနှင့် မြေငှားရမ်းခများမှာ-<br>(က) နိုင်ငံတကာ အဆင့်မီ ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေအားကစားဥယျာဉ် တည်ဆောက်လုပ်ငန်းအတွက် ကျပ် သန်း ၁၀၀၀ နှင့် မြေငှားရမ်းခ ကျပ် သန်း ၁၀၀၀ စုစုပေါင်း ကျပ် သန်း ၂၀၀၀ တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းရမည် ၎င်းအပြင်မြေငှားရမ်းခအဖြစ် နှစ်စဉ် ကျပ် (၆၅)သန်းကို |

| | | | |
|---|---|---|---|
| | | | ခွဲဝေပေးသွင်းရမည်ဖြစ်သည်။ **အပိုဒ် ၆-၀၁**<br>(ခ)စီးပွားရေးနှင့် လူနေအဆောက်အဦများ တည်ဆောက်ရေး အတွက် မြေအသုံးချမှု ပရီမီယံကြေး အဖြစ် ကျပ် သန်း ၁၄၀၀၀ အဖြစ် တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်း ရမည် ဖြစ်သည်။ **အပိုဒ် ၆-၀၂** |
| | | - | စီမံကိန်းမြေဧရိယာ စုစုပေါင်း ၅၄၇.၈၂ ဧကအနက် နိုင်ငံတကာ အဆင့်မီ ဂေါက်ကွင်းအသစ် ဖောက်လုပ်ခြင်း၊ Club House ၊ အပန်းဖြေအားကစားဥယျာဥ်တည်ဆောက်လုပ်ငန်းများ ဆောင်ရွက်ရန် အတွက် မြေဧရိယာ ၃၃၀ ဧကအား ငှားရမ်း၍ တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း၊ စာချုပ်ချုပ်ဆိုဆောင်ရွက်ရန်။ **အပိုဒ် ၂-၀၂** |
| | | - | ကျန်ရှိသော မြေဧရိယာ ၂၁၇.၈ ဧကတွင် စီးပွားရေးနှင့် လူနေ အဆောက်အဦများ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အတွက် နှစ်ဖက်ညှိနှိုင်းချက်အရ Phwint Phyo Thit Co., Ltd. သို့ အပြီးအပိုင် လွှဲပြောင်းပေးရမည်။ **အပိုဒ် ၂-၀၂** |
| | | - | Phwint Phyo Thit Co., Ltd. သည် စာချုပ် သက်တမ်းပြည့် မြောက်သည့်နေ့မှစ၍ ရက်ပေါင်း(၆၀)အတွင်း ငှားရမ်းမြေနှင့် ယင်းမြေပေါ်တွင် တည်ဆောက်ထားသော နိုင်ငံတကာ အဆင့်မီ ဂေါက်ကွင်းနှင့် ဂေါက်ကွင်းလုပ်ငန်း၊ Club House နှင့် လုပ်ငန်းသုံး ပစ္စည်းများကို ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေ အတိုင်း အဖိုးစားနား မပါဘဲ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီသို့လွှဲပြောင်းပေးရမည်။ **အပိုဒ် ၁၆-၀၁** |
| ၁၇။ | ငွေကြေးအထောက်အထား | - | ကျပ်ငွေအထောက်အထားအဖြစ် Phwint Phyo Thit Co., Ltd. သည် ကမ္ဘောဇတွင် (၂-၂-၂၀၁၆) နေ့စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၂၄၂,၆၄၇,၂၂၅.၄၆ နှင့်(၂၃-၂-၂၀၁၆) နေ့စွဲဖြင့် ငွေလက် ကျန် ကျပ် ၉၀၂,၄၃၂,၆၄၉.၀၀ ရှိကြောင်း တင်ပြထား ပါသည်။ |
| | | - | နိုင်ငံခြားငွေအထောက်အထားအဖြစ် Phwint Phyo Thit Co., Ltd. သည် MICB Bank တွင် (၂၉-၁-၂၀၁၆) နေ့စွဲဖြင့် ငွေလက် ကျန် US$ ၇၃၉.၄၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - | (၁) ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် နှင့် အရင်း အနှီး ပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ကုမ္ပဏီမှ တင်ပြ ချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>(၂) မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီနှင့် ကုမ္ပဏီတို့ သည် အဆိုပါ စီမံကိန်းသဘောတူ စာချုပ်အား ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်နေ့တွင် လက်မှတ်ရေးထိုး ချုပ်ဆိုထား ပြီး ဖြစ်ကြောင်းနှင့် အဆိုပါစီမံကိန်းမှာ တင်ဒါခေါ်ယူပြီး ဆောင်ရွက် သည့် စီမံကိန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။ |
| | | - | (၃) ယခု လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြလာသည့် 3 Star Hotel နှင့် 5 Star Hotel မှာ မန္တလေးမြို့တော် စည်ပင်သာယာ ရေး ကော်မတီ နှင့် Phwint Phyo Thit Co., Ltd. ချုပ်ဆို ထားသည့် စီမံကိန်းသဘောတူစာချုပ်အရ စီးပွားရေးနှင့် လူနေ အဆောက် အအုံများ တည်ဆောက်မည့် မြေဧရိယာ ၂၁၇.၈ ဧကတွင် ပါဝင်ပြီး စာချုပ် အပိုဒ် ၂-၀၂ အရ ယင်း မြေအား ကုမ္ပဏီသို့ အပြီး အပိုင်လွှဲပြောင်း ပေးရမည် ဖြစ်ကြောင်း |

| | | | |
|---|---|---|---|
| | | - | တွေ့ရှိရပါသည်။<br>(၄) လုပ်ငန်းဆောင်ရွက်မည့် စနစ်မတူညီသဖြင့် သီးသန့် စာချုပ် ၂ စောင် ချုပ်ဆိုရန် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် ပြုထားကြောင်း တွေ့ရှိရပါသည်။<br>(၅) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် 3 Star နှင့် 5 Star ဟိုတယ် လုပ်ငန်းအတွက် လိုအပ်သော ကားပါကင် မှာ Standard အရ (၂၉၉) Lot ဖြစ်ပြီး လျာထားသည့် ကားပါကင်မှာ (၁၇၅) Lot ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(၆) ဟိုတယ်လုပ်ငန်းအတွက် နှစ်စဉ်လျှပ်စစ်ဓါတ်အား သုံးစွဲမှုအား တွက်ချက်တင်ပြပေးရန်။<br>(၇) အဆိုပြုချက်မှာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဖြစ်သဖြင့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှု နှင့် ဝန်ထမ်းလစာများအား ကျပ်ငွေဖြင့် ပြင်ဆင်တွက်ချက်ပေးရန်။<br>(၈)အခွန်ကင်းလွတ်ခွင့် လျှောက်လွှာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ အားပြင်ဆင်တင်ပြရန်။<br>(၉)လုပ်ငန်းဆောင်ရွက်မည့် ဟိုတယ်အခန်းအမျိုး အစား အား ဖော်ပြထားသော်လည်း ဟိုတယ် အထပ် အမြင့် မည်မျှ ဆောက်မည်ဖြစ်ကြောင်း ရှင်းလင်းစွာ တင်ပြပေးရန်။<br>(၁၀)လုပ်ငန်းဆောင်ရွက်မည့် တည်နေရာပြပုံ နှင့် မြေအထောက် အထား တင်ပြရန်။<br>(၁၁)စီးပွားရေးနှင့် လူနေအဆောက်အအုံစီမံကိန်းများ ဆောက်ရွက် မည့် မြေ ၂၁၇.၈ ဧက အား ငှားရမ်းမှု နှင့် ပတ်သက်၍ ရှင်းလင်းစွာဖော်ပြမထားကြောင်းနှင့် ပြည်ထောင်စု ရှေ့နေချုပ် ရုံး ၏ သဘောထားမှတ်ချက်နှင့်အညီ ယင်းမြေငှားရမ်းခြင်းကို သီးခြားစာချုပ် တစ်စောင် ချုပ်ဆိုသင့်ကြောင်း စိစစ်ရပါသည်။ |
| ၁၉။ | သဘောထားမှတ်ချက်တောင်းခံမည့် ဌာနများ | | မန္တလေးတိုင်း ဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ဟိုတယ် နှင့် ခရီးသွားလာ ရေး လုပ်ငန်း ဝန်ကြီး ဌာနနှင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း တို့ထံသို့ သဘောထား များ တောင်းခံမည်ဖြစ်ပါသည်။ |

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ရာတွင် စိစစ်ရမည့် အဓိက အချက်များ

ကဏ္ဍ - ဟိုတယ်နှင့် ခရီးသွား

ဆောင်ရွက်မည့်လုပ်ငန်း - ဟိုတယ်/ခရီးသွား လုပ်ငန်း

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၁။ | **မြေနေရာနှင့် စပ်လျဉ်းသည့် အချက်များ**<br>(က) ကိုယ်ပိုင်မြေ ဖြစ်ပါက လန/ ၃၉ ရရှိကြောင်း အထောက်အထား/ လျှောက်ထားဆဲ အထောက်အထား/ မြေစာရင်းပုံစံ (၁၀၅) တင်ပြရန်၊<br>(ခ) ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်းဖြစ်လျှင် အငှားစာချုပ် (မူကြမ်း)<br>(ဂ) ဌာနပိုင်မြေ အဆောက်အဦပေါ်တွင် ဆောင်ရွက်မည်ဆိုပါက ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း) နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် | ✓ |
| ၂။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ**<br>(က) ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း၊<br>(ခ) ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ |
| ၃။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ**<br>(က) နှစ်စဉ်ဝန်ဆောင်မှု ရည်မှန်းချက်<br>(ခ) ဝန်ဆောင်မှုအစီအစဉ်<br>(ဂ) အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်)<br>(ဃ) ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ(ကိန်းဂဏန်းအချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်)<br>(င) နိုင်ငံတော်က ရရှိမည့် အကျိုးအမြတ် အခြေအနေ (ဝင်ငွေခွန်/ ကုန်သွယ်လုပ်ငန်းခွန်)<br>(စ) အလုပ်အကိုင် ရရှိမှု အခြေအနေ (ပြည်တွင်း/ပြည်ပ ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓<br>✓<br>✓<br>✓<br>✓<br>✓ |
| ၄။ | **ငွေကြေးအထောက်အထား**<br>(က) ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဝယ်ယူပြီးတန်ဖိုးမှအပ ဘဏ်-အထောက်အထား တင်ပြရန်၊<br>(ခ) ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏ Bank Statement တင်ပြရန်၊ | ✓<br>✓ |

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၅။ | **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ဟိုတယ်လုပ်ငန်းလိုင်စင်** | |
| ၆။ | - ဟိုတယ်လုပ်ငန်းဖြစ်ပါကအမျိုးသားယဉ်ကျေးမှုနှင့်ပတ်သက်၍ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်းအသီးသီး မှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် တင်ပြရန်၊ | |
| ၇။ | **<u>အထွေထွေ</u>** | |
| | (က) အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | ✓ |
| | (ခ) ကတိဝန်ခံချက် | ✓ |
| | (ဂ) ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✓ |
| | (ဃ) လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | — |
| | (င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✓ |
| | (စ) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✓ |
| | (ဆ) အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံ မိတ္တူ | — |
| | (ဇ) အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | — |
| | (ဈ) လူမှုသဘာဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility- CSR) ဆောင်ရွက်မည့် အစီအစဉ်တင်ပြရန်။ (ရရှိမည့် အကျိုးအမြတ်၏ ရာခိုင်နှုန်းတစ်ရပ် တိတိကျကျ သတ်မှတ်ဖော်ပြရန်) | ✓ |
| | (ည) ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | — |
| ၈။ | **လုပ်ငန်းနှင့် သက်ဆိုင်သည့် စာချုပ်များ** | |
| | (က) ဌာနပိုင်မြေကို BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါက ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်နှင့် အညီပြုစုထားသည့် BOT စာချုပ် (မူကြမ်း) | |
| | (ခ) ဌာနနှင့် ဖက်စပ်လုပ်ငန်း ဆောင်ရွက်ပါက လုပ်ငန်းသဘောတူ စာချုပ် (မူကြမ်း) | |

| **လာရောက်တင်ပြသူ** | | **စိစစ်သူ** | |
|---|---|---|---|
| လက်မှတ် | [illegible] | လက်မှတ် | [illegible] |
| အမည် | [illegible] | အမည် | [illegible] |
| တာဝန် | [illegible] | ရာထူး | [illegible] |
| ကုမ္ပဏီ | [illegible] | ဌာနခွဲ | [illegible] |
| နေ့စွဲ | 29.3.2016 | နေ့စွဲ | ၂၉.၃.၂၀၁၆ |

ပုံစံ (မနသ-၂)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၂၁၆/၂၀၁၆ ။ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးရဲမြင့်

(ခ) **အဘ အမည်** ဦးထွန်းမြင့်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/လရန (နိုင်) ၀၀၄၂၁၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅)၊ အခန်း(၆)၊ ပွဲရုံတန်း၊ ချမ်းမြသာယာရပ်ကွက်၊ ပြည်ကြီးတံခွန်မြို့နယ်၊ မန္တလေးမြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Phwint Phyo Thit Company Limited ( ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ရေကြည်ကျေးရွာအုပ်စု၊ကွင်းအမှတ်(၅၄၈)၊ရေကြည်အရှေ့ကွင်း၊ ဦးပိုင်ပေါင်း ၉၉ ကွက်ရှိ မြေဧရိယာ (၃၇၂.၉၂) ဧက အနက် မြေဧရိယာ (၇.၅)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၃၄၈၀၁.၉၆ သန်း(အမေရိကန်ဒေါ်လာ၁၅.၆၃၅ သန်း အပါအဝင် စုစုပေါင်း ကျပ် သုံးသောင်း လေးထောင် ရှစ်ရာ့တစ်သန်း နှင့် ကိုးသိန်း ခြောက်သောင်း ခန့် )

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

11.11.16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စာအမှတ် ၁၀၁၂
ရက်စွဲ ၁၁.၁၁.၂၀၁၆
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၂ /၂၀၁၆ (မနသ)
၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)မှ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၄၈)၊ ရေကြည်အရှေ့ကွင်း၊ ဦးပိုင်ပေါင်း ၉၉ ကွက်ရှိ မြေဧရိယာ(၃၇၂.၉၂)ဧကအနက် မြေဧရိယာ(၇.၅)ဧကတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရဲမြင့် မှ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊အောက်တိုဘာလ ၂၈ ရက်နေ့တွင်ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ “ခွင့်ပြုမိန့် ထုတ်ပေးရန်” ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၂၁၆ /၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ၂၀(ဂ)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန် တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်

နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက် အရန်ပစ္စည်း၊လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ဥပဒေပုဒ်မ ၂၀(ဆ)အရပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ နှင့် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံ များ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်)သည် မန္တလေး မြို့တော်စည်ပင်သာယာရေးကော်မတီမှ မြေဧရိယာ(၂၁၇.၈၀)ဧက အနက် မြေဧရိယာ(၇.၅)ဧက ကို လွှဲပြောင်းရယူပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း တည်ဆောက်ရေးအတွက် မြေ အသုံးချမှု ပရီမီယံ ကြေးအဖြစ် ကျပ် သန်း ၄၈၀ ( ကျပ် သန်း လေးရာ့ ရှစ်ဆယ် တိတိ ) ကို တစ်လုံးတစ်ခဲတည်း ကြိုတင် ပေးသွင်းရမည်။

၈။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်) သည် စီမံကိန်း တစ်ခုလုံးကို Developer အဖြစ် အကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံမှုကို ၁၀၀% ဆောင်ရွက်ရမည်။ Developer ဖြစ်သည့်အားလျော်စွာ စီမံကိန်းပါလုပ်ငန်းများကို မိမိ ကိုယ်တိုင်သော်လည်းကောင်း၊ပိုမိုအဆင့်အတန်းမြင့်လာရေးအတွက် "မန်းစည်ပင်"၏ သဘောတူညီ ချက်အရ လုပ်ငန်းကျွမ်းကျင်သော အခြားကုမ္ပဏီတစ်ခုခုဖြင့် သော်လည်းကောင်း ၊ ပြည်ပ ကုမ္ပဏီ အဖွဲ့အစည်းများနှင့် သော်လည်းကောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၉။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီမှ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေဧရိယာ (၂၁၇.၈၀) ဧက အနက် မြေဧရိယာ(၇.၅)ဧက တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အတွက် Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်) သို့ အပြီးအပိုင် လွှဲပြောင်းပေးရမည်။

၁၀။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် နိုင်ငံတကာအဆင့်မီ ရေတံခွန်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေး နှင့် လူနေအဆောက်အအုံများတည်ဆောက်ရေး စီမံကိန်းသဘောတူစာချုပ်ကို လက်မှတ် ရေးထိုး သည့်နေ့မှ စတင်၍ ဟိုတယ်တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ဟိုတယ် ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့် အညီ ပေးဆောင်ရမည်။

၁၃။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဟိုတယ် တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေး ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခို ရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံ လိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirement and Criteria)ထက် မနိမ့်ကျစေရေးအတွက် အဆိုပါ ဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၄။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေ များပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၅။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်း စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment Plan-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကိုပြုလုပ်ဆောင်ရွက်ပြီးယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံ ရမည်။

၁၆။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ် အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရ မည်။ ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက် ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက် တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၇။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက်

လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၈။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်း ဥပဒေ များ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင် သို့ **မပျက် မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး(တစ်)လ အတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၁။ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာန/အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၂။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့်မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထား သော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့်ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်း ခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့်

ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင်လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊မရက-၄ /မ-၁၅၅၄/၂၀၁၆ ( ၁၀၂၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်

**ဖြန့်ဝေခြင်း-**

ပြည်ထောင်စု အစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး ၊မန္တလေးမြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်ဓါတ်အားပို့လွှတ်ရေးနှင့် ကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

၃

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ ခရီးသွားလုပ်ငန်းအဖွဲ့ချုပ်
မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ၊ မန္တလေးမြို့
မန်နေဂျင်း ဒါရိုက်တာ ၊ Phwint Phyo Thit Company Limited (ဖွံ့ဖြိုးသစ် ကုမ္ပဏီ လီမိတက်)

| | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| (စ) | ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Fibrelink Myanmar Co., Ltd. မှ Fibre Infrastructure Related Internet and Telecommunication Services to Government Sector and Private Sector လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဆ) | ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Convalt Energy (Myanmar) Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး နဘူးအိုင် နှင့် ဝမ်းတွင်းဒေသတို့တွင် B.O.T စနစ်ဖြင့် ၁၅၀ မဂ္ဂါဝပ်စီ ရှိသော နေစွမ်းအင်သုံး ဓာတ်အားပေးစက်ရုံများ တည်ဆောက်ပြီး လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခွင့်လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဇ) | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Swel Hein Group Company Limitedမှ အရည်အသွေးမြင့် သစ်ခွဲသား၊ တံခါး၊ ပါကေးနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဈ) | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မဟာဘားအံ ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Mahar Hpa An Production Co., Ltd.) တည်ထောင်ကာ CMP စနစ်ဖြင့် အမျိုးသမီး အတွင်းခံ အဝတ်အမျိုးမျိုးအား တစ်စိတ်တစ်ပိုင်း ချုပ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ည) | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ယူနိုက်တက်ပရီဆိုက်စ် ကုမ္ပဏီလီမိတက် (United Precise Company Limited) မှ CMP စနစ်ဖြင့် Post Bar, Signboard Frame များ ပုံစံအရွယ်အစားမျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဋ) | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Pwint Phyo Thit Co., Ltd. မှ BOT စနစ်ဖြင့် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း အား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |

# ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၃)
## PAT ၏ ဆွေးနွေးဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | လုပ်ငန်းအမည် | အမျိုးအစား | PAT အကြိမ်/နေ့စွဲ | ဆွေးနွေးချက်မှပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက်ပြီးစီးမှု | အလံအမှတ် |
|---|---|---|---|---|---|---|
| ၁။ | Phwint Phyo thit Co., Ltd. | 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း | (၁၄/၂၀၁၆)<br>၄-၄-၂၀၁၆ | မတည်ငွေရင်းပမာဏ၊ဝန်ထမ်းလစာ၊ စီးပွားရေး ဆိုင်ရာတွက်ချက်မှုများအား မြန်မာကျပ် ငွေဖြင့် ပြင်ဆင်တွက်ချက်ဖော်ပြရန်<br>-ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်းအား ပြန်လည် ပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | က<br>ခ |

ကုမ္ပဏီအမည် - Phwint Phyo Thit Co., Ltd.

လုပ်ငန်း - မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီး မြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၉-၃-၂၀၁၆ | | မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ သဘောထားမှတ်ချက် အား ၂၆-၉-၂၀၁၆ မှ ရရှိခြင်း ဖြစ်သောကြောင့် အစည်းအဝေးတင်ပြရန် ကြန့်ကြာရခြင်း ဖြစ်ပါသည်။ |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က)သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၈-၄-၂၀၁၆ | |
| | (ခ) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၆-၄-၂၀၁၆ | ၂၁-၉-၂၀၁၆ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၂၈-၄-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း | ၃-၅-၂၀၁၆ | ၂၂-၆-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး (၁၄/၂၀၁၆) (၄-၄-၂၀၁၆) သို့ တင်ပြခြင်း | ၄-၄-၂၀၁၆ | | |
| ၄ | အစည်းအဝေးဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၂၇-၄-၂၀၁၆ | | |
| ၅ | အဆိုပြုလွှာပြင်ဆင်ပြီး ပြန်လည် တင်ပြလာသည့်နေ့ | | ၃၀-၉-၂၀၁၆ | |
| ၆ | ကော်မရှင်အစည်းအဝေးသို့ ပြန်လည်တင်ပြမည့် အကြိမ်နှင့် နေ့ရက် | | ၂၈-၁၀-၂၀၁၆ (၂၀ / ၂၀၁၆) | |
| ၇ | **စုစုပေါင်းကြာမြင့်ရက်** | (၂၁၀) ရက် | | |

ကုမ္ပဏီအမည် - Phwint Phyo Thit Co., Ltd.
အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၃၄၈၀၁.၉၆ သန်း (US$ ၁၅.၆၃၅ သန်း အပါအဝင်)
လုပ်ငန်းသက်တမ်း - ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်)
အရင်းကြေကာလ - ၇ နှစ် ၈ လ
IRR - ၁၂.၃၄ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၉၃၆.၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၃၉၉၃.၅၇ သန်း | ကျပ် ၃၃၆၁.၄၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၂၅၉၇.၆၅ သန်း |
| ၆ | CSR (၂%) | - | ကျပ် ၂၀၁.၇၁ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၉၆.၅၄ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ဝန်ထမ်း (၄၃၄) ဦး<br>ပြည်တွင်းလုပ်သား (၄၃၄ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၄၉၃၂.၅၇ သန်း** | **ကျပ် ၆၂၅၈.၄၆ သန်း** |
| | Cost & Benefit | ၁ း ၃ | |

အကြောင်းအရာ၊ Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီး မြို့နယ် ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် / | - Phwint Phyo Thit Co., Ltd. |
| | ကမကထပြုသူ အမည် | - ဦးရဲမြင့် |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / | - မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည် အရှေ့ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်း အမှတ်(၅၄၉)၊ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ် (၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ (၅၄၇.၈၀)ဧက အနက် မြေ ဧရိယာ (၇.၅)ဧက |
| ၅။ | မြေပိုင်ရှင် | - မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီ |
| | မြေဧရိယာအကျယ်အဝန်း | - မြေဧရိယာ (၅၄၇.၈၀)ဧက အနက် မြေ ဧရိယာ (၇.၅)ဧက |
| ၆။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်) |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| | | 1 US$ =၁၂၀၀ ကျပ် |
| ၇။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၃၄၈၀၁.၉၆ သန်း (US$ ၁၅.၆၃၅ သန်း အပါအဝင် ) |
| | ထည့်ဝင်သည့် အမျိုးအစား | |

| | USD (သန်း) | ကျပ် (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|
| အဆောက်အဦ | ၈.၂၇၃ | ၁၅၅၆၀.၀၂ | ၂၅၄၈၇.၆၂ |
| စက်ပစ္စည်းများနှင့် လျှပ်စစ် ပစ္စည်းများ | ၇.၃၆၂ | - | ၈၈၃၄.၃၄ |
| Land Use Premium | - | ၄၈၀.၀၀ | ၄၈၀.၀၀ |
| စုစုပေါင်း: | ၁၅.၆၃၅ | ၁၆၀၄၀.၀၂ | ၃၄၈၀၁.၉၆ |

၈။ ဝန်ဆောင်မှု (၆ ) နှစ်မြောက်

| စဉ် | အခန်း အမျိုးအစား | 3 Star Hotel | | 5 Star Hotel | |
|---|---|---|---|---|---|
| | | အခန်း အရေ အတွက် | တစ်ခန်း ငှားရမ်း ခနှုန်း (US$) | အခန်း အရေ အတွက် | တစ်ခန်း ငှားရမ်း ခနှုန်း (US$) |
| (က) | Superior Room | ၃၆ | ၈၀ | ၁၅၅ | ၈၀ |
| (ခ) | Standard Room | ၄၄ | ၅၀ | - | - |
| (ဂ) | Suite Room | ၁၂ | ၁၂၀ | ၁၆ | ၁၅၀ |
| (ဃ) | Deluxe Room | - | - | ၁၂၉ | ၁၂၀ |
| | စုစုပေါင်း | ၉၂ | | ၃၀၀ | |
| Occupancy Rate ၇၀ % | | | | | |

| | | |
|---|---|---|
| ၉။ | ဝင်ငွေ (၆နှစ်ပျမ်းမျှ) | - US$ ၁၃.၃၉ သန်း |
| | အသုံးစရိတ် (၆နှစ်ပျမ်းမျှ) | - US$ ၁၀.၈၉ သန်း |
| | အသားတင်အမြတ် (၆နှစ်ပျမ်းမျှ) | - US$ ၂.၅၀ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ် ပျမ်းမျှ) | |
| | ဝင်ငွေခွန် | - US$ ၀.၈၃ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၆၄ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - ၄၄၂ ဦး |
| | ပြည်တွင်း | ၄၃၄ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ် ပါသည်။) |
| | ပြည်ပ | ၈ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပြီးအမြင့် ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပါ သည်။) |
| ၁၂။ | အရင်းကြေကာလ | - ၇ နှစ် ၈ လ |
| ၁၃။ | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၂.၃၄ % |
| ၁၄။ | တစ်နှစ်လျှပ်စစ်ဓါတ်အား လိုအပ်ချက် | - ၅၆၀၀၀၀ ကီလိုဝပ် |
| ၁၅။ | မန္တလေးမြို့တော်စည်ပင်သာယာ ရေးကော်မတီ နှင့် ကုမ္ပဏီ တို့ ချုပ်ဆိုထားသည့် နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက် အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်ပါ အဓိက အချက်များ | (က) စာချုပ် သက်တမ်းမှာ စာချုပ်စတင် အကျိုးသက် ရောက်သည့်နေ့မှစ၍ငှားရမ်းကာလ နှစ်ပေါင်း ၅၀ ဖြစ်ပြီး ယင်းကာလ ကုန်ဆုံးပြီး နောက်ထပ်တိုး သက်တမ်းအဖြစ် တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် သက်တမ်းတိုးမြှင့်နိုင်သည်။ **အပိုဒ် ၉-၀၂**<br>(ခ) မြေ ၅၄၇.၈၀ ဧက အနက် မြေ ၂၁၇.၈၀ ဧကပေါ် တွင် ကုမ္ပဏီမှ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထား သော Master Plan ပါ စီးပွားရေး နှင့် လူနေ အဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းကို လုပ်ကိုင်နိုင်ရန် အတွက် နှစ်ဦးနှစ်ဖက် ညှိနှိုင်း သဘောတူညီချက်ဖြင့် ကုမ္ပဏီသို့ အပြီးအပိုင် လွှဲပြောင်းပေးရမည်။ **အပိုဒ် ၂-၀၂**<br>(ဂ) ကုမ္ပဏီသည် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီမှ ငှားရမ်းရရှိ မြေ ဧရိယာ ၂၁၇.၈၀ ဧက ကိုလွှဲပြောင်းရယူပြီး စီးပွားရေးနှင့် လူနေအဆောက် အအုံများ တည်ဆောက်ရေးအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် သန်း ၁၄၀၀၀ အဖြစ် တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းရန် နှစ်ဦး နှစ်ဖက် သဘောတူကြပါသည်။ **အပိုဒ် ၆-၀၂** |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက- ၄/မ-၁၅၅၄/၂၀၁၆(၉၅၃)
ရက်စွဲ၊၂၀၁၆ ခုနှစ် အောက်တိုဘာလ ၂၇ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ Phwint Phyo Thit Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်ရှိ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁။ Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့ (အိုင်ကြီး) ကွင်းအမှတ်(၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ (၅၄၇.၈၀)ဧက အနက်မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့ မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပြီး ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက လုပ်ငန်းများစတင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသည့် မန္တလေးမြို့တော်စည်ပင်သာယာ ရေးကော်မတီ နှင့် ကုမ္ပဏီ တို့ ချုပ်ဆိုထားသည့် နိုင်ငံတကာ အဆင့်မီ ရေတံခွန်တောင် ဂေါက်ကွင်း၊ Club House ၊ အပန်းဖြေ အားကစားဥယျာဉ်၊ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေး စီမံကိန်းသဘောတူ စာချုပ်အားတင်ပြထားပါသည်။ စီမံကိန်းသဘောတူ စာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) စာချုပ် သက်တမ်းမှာ စာချုပ်စတင် အကျိုးသက် ရောက်သည့်နေ့မှစ၍ ငှားရမ်းကာလနှစ်ပေါင်း ၅၀ ဖြစ်ပြီး ယင်းကာလ ကုန်ဆုံးပြီး နောက်ထပ်တိုး သက်တမ်းအဖြစ် တစ်ကြိမ်လျှင် ၁၀ နှစ် ဖြင့် ၂ ကြိမ်သက်တမ်းတိုးမြှင့်နိုင်သည်။ **အပိုဒ် ၉-၀၂**

(ခ) မြေဧရိယာ ၅၄၇.၈၀ ဧက အနက် မြေဧရိယာ ၂၁၇.၈၀ ဧက ပေါ် တွင် ကုမ္ပဏီမှ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထားသော Master Plan ပါ စီးပွားရေး နှင့် လူနေ အဆောက်အအုံများ တည်ဆောက်ခြင်း လုပ်ငန်းကို လုပ်ကိုင်နိုင်ရန် အတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်း သဘောတူညီချက်ဖြင့် မြေအသုံးချမှု ပရီမီယံကြေးများ တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းပြီး ကုမ္ပဏီသို့အပြီး အပိုင်လွှဲပြောင်းပေးရမည်။ **အပိုဒ် ၂-၀၂**

(ဂ) ကုမ္ပဏီမှ နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြထားသော Master Plan ပါ မြေနေရာများတွင် စီးပွားရေး နှင့် လူနေအဆောက်အအုံများ တည်ဆောက်ရန် အတွက် နှစ်ဖက်ညှိနှိုင်းသဘောတူညီချက်အရ မြေအသုံးချမှု ပရီမီယံကြေးများ တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းပြီး အပိုဒ် ၂-၀၂ ပါ မြေဧရိယာ ၂၁၇.၈၀ ဧက နှင့် ယင်း မြေပေါ်ရှိ ရွှေ့ပြောင်းနိုင်သောပစ္စည်း ၊ မရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို အပြီးအပိုင် လွှဲပြောင်းပေးရမည်။ **အပိုဒ် ၃-၀၂**

(ဃ) ကုမ္ပဏီသည် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီမှ အပိုဒ် ၃-၀၂ ပါ မြေဧရိယာ(၂၁၇.၈၀)ဧကကို လွှဲပြောင်းရယူပြီး စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်ရေးအတွက် မြေအသုံးချမှု ပရီမီယံကြေး အဖြစ် ကျပ်သန်း ၁၄၀၀၀ အဖြစ် တစ်လုံးတစ်ခဲတည်း ကြိုတင်ပေးသွင်းရန် နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။ **အပိုဒ် ၆-၀၂**

၄။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၃၄၈၀၁.၉၆ သန်း (US$ ၁၅.၃၆၅ သန်း အပါအဝင် ) ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

**1 US$ = ၁၂၀၀ ကျပ်**

| | US$ (သန်း) | ကျပ် (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|
| (က) အဆောက်အဦ | ၈.၂၇၃ | ၁၅,၅၆၀.၀၂ | ၂၅၄၈၇.၆၂ |
| (ခ) စက်ပစ္စည်းများနှင့် လျှပ်စစ်ပစ္စည်းများ | ၇.၃၆၂ | - | ၈၈၃၄.၃၄ |
| (ဂ) Land Use Premium | - | ၄၈၀.၀၀ | ၄၈၀.၀၀ |
| **စုစုပေါင်း** | ၁၅.၆၃၅ | ၁၆၀၄၀.၀၂ | ၃၄၈၀၁.၉၆ |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း ၄၃၄ ဦးနှင့် ပြည်ပမှ ဝန်ထမ်း ၈ ဦး၊ စုစုပေါင်း ၄၄၂ ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၅,၀၀၀ ဖြစ်ပါ သည်။

၆။ အဆိုပြုလုပ်ငန်းတွင် ဟိုတယ်အခန်းအမျိုးအစား (၄)မျိုးပါဝင်ပြီး စုစုပေါင်း ၄၀၂ ခန်း ရှိပါသည်။ အစားအသောက် နှင့် အဖျော်ယမကာရောင်းချခြင်းမှလည်း ဝင်ငွေရရှိမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆)နှစ် မြောက်တွင် ဝန်ဆောင်နိုင်မည့် ရာခိုင်နှုန်းမှာ စုစုပေါင်း အခန်းအရေအတွက်၏ ၇၀ ရာခိုင်နှုန်း ဖြစ်ပြီး အခန်းအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အခန်း အမျိုးအစား | 3 Star Hotel | | 5 Star Hotel | |
|---|---|---|---|---|---|
| | | အခန်း အရေအတွက် | တစ်ခန်း ငှားရမ်း ခနှုန်း (US$) | အခန်း အရေအတွက် | တစ်ခန်း ငှားရမ်း ခနှုန်း (US$) |
| (က) | Superior Room | ၃၆ | ၈၀ | ၁၅၅ | ၈၀ |
| (ခ) | Standard Room | ၄၄ | ၅၀ | - | - |
| (ဂ) | Suite Room | ၁၂ | ၁၂၀ | ၁၆ | ၁၅၀ |
| (ဃ) | Deluxe Room | - | - | ၁၃၉ | ၁၂၀ |
| | **စုစုပေါင်း** | ၉၂ | | ၃၁၀ | |
| | Occupancy Rate ၇၀ % | | | | |

၇။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည် -

1 US$ = ၁၂၀၀ ကျပ်

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၃.၃၉ |
| (ခ) | အသုံးစရိတ် | ၁၀.၈၉ |
| (ဂ) | အသားတင်အမြတ် | ၂.၅၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၀.၈၃ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၀.၆၄ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၂.၃၄ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ဖော်ပြပါအတိုင်း ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း။

(၂) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာဖြစ်ပါကြောင်း။

(၅) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးမှ ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန် ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အမြတ်ငွေ၏ ၂ % အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ် များအား လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ် စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန် ပတ်ဝန်းကျင် ထိခိုက် မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင် ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့် အညီ အစီရင်ခံ ရေးသားတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေး မည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) ခရီးသွားလုပ်ငန်းကို အထောက်အကူပြုသော စီမံကိန်းတစ်ရပ် ဖြစ်သော်လည်း မန္တလေးမြို့သို့ ပြည်ပခရီးသည်ရောက်ရှိမှု၊ ပြည်တွင်း ခရီးသွားဧည့်သည် တည်းခိုမှုနှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ ဖွံ့ဖြိုးမှုတို့သည် အချိုးညီရန် လိုအပ်ပါကြောင်း။

(၂) ဌားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါကြောင်း။

(၃) ဟိုတယ် ဧရိယာသည် ဂေါက်ကွင်းဧရိယာနှင့် နီးကပ်သဖြင့် တည်းခိုသည့် ဧည့်သည်များအား ဂေါက်သီးရိုက်ကစားမှုမှ မတော်တဆ ဖြစ်ပွားမှု မဖြစ်စေရန် အကာအကွယ် ဆောင်ရွက်မှုများ ကြိုတင်စီမံထားသင့်ပါကြောင်း။

(၄) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာသင်တန်းဆင်း လက်မှတ်များ တင်ပြနိုင်ရန် လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

(၅) ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့်ကို ဤဝန်ကြီးဌာနသို့ ဆက်လက် လျှောက်ထားရယူသွားရန် လိုအပ်ပါကြောင်း။

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

(၁) မန္တလေးတိုင်းဒေသကြီးတွင် တည်ဆောက်မည့် ဟိုတယ်တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(၂) အဆောက်အဦအပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | MICစာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| (က) | Cement | တန် | ၃၄၁၁ | ၃၄၁၁ | ၃၄၁၁ |
| (ခ) | Rebar | တန် | ၁၁၀၅ | ၁၁၀၅ | ၁၁၀၅ |
| (ဂ) | Ready mixed paint | ဂါလံ | ၁၅၉၃ | ၁၅၉၃ | ၃၄၃ |
| (ဃ) | Plastic Paint | ဂါလံ | ၁၃၂၄၂ | ၁၃၂၄၂ | ၈၀၆၃ |

(၃) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင်တင်ပြသော ပုံစံ၊ ဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ်တည်ဆောက်မည့်ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိ မည်ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေအတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါကြောင်း၊ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည် စိစစ်မှုများ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

(၄) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း။

**(မှတ်ချက်။ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် အရေအတွက် များအတိုင်း ပြင်ဆင်၍ ကုမ္ပဏီမှ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၅ ရက်နေ့တွင် တင်ပြပြီးဖြစ်ပါသည်။)**

၁၀။ ကျပ်ငွေအထောက်အထားအဖြစ် Phwint Phyo Thit Co., Ltd. သည် ကမ္ဘောဇဘဏ်တွင် (၂-၂-၂၀၁၆) နေ့စွဲဖြင့် ငွေလက်ကျန် ကျပ် ၁,၂၄၂,၆၄၇,၂၂၅.၄၆ နှင့်(၂၃-၂-၂၀၁၆) နေ့စွဲဖြင့် ငွေလက်ကျန် ကျပ် ၉၀၂,၄၃၂,၆၄၉.၀၀ ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် MICB Bank တွင် (၂၉-၁-၂၀၁၆) နေ့စွဲဖြင့် ငွေလက် ကျန် အမေရိကန်ဒေါ်လာ ၇၃၉.၄၅ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၂% သုံးစွဲမည်ဖြစ်ပြီး လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များအား တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၁၄။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ကုမ္ပဏီတို့သည် အဆိုပါစီမံကိန်း သဘောတူ စာချုပ်အား ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်နေ့တွင် လက်မှတ်ရေးထိုး ချုပ်ဆိုထားပြီး ဖြစ်ကြောင်းနှင့် အဆိုပါ စီမံကိန်းမှာ တင်ဒါခေါ်ယူပြီး ဆောင်ရွက်သည့် စီမံကိန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ခ) အဆိုပြု စီမံကိန်းအတွက် ပြည်ထဲရေးဝန်ကြီးဌာနမှ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၇၆၀/၂၀၁၆)ဖြင့် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးခရိုင်၊ပုသိမ်ကြီးမြို့နယ်၊ရေကြည်ကျေးရွာအုပ်စု၊ ရေကြည်အရှေ့ကွင်းအမှတ် (၅၄၈) ရှိ ဦးပိုင်ပေါင်း(၉၉)ခုမှ မြေဧရိယာ (၃၀၀.၆၁)ဧက နှင့် အခြားမြေဧရိယာ (၇၂.၃၁) ဧက၊ စုစုပေါင်းမြေဧရိယာ(၃၇၂.၉၂)ဧကအား စက်မှု/စီးပွား မြေငှားဂရန် ထုတ်ပေးခွင့်ပြုပြီး ဖြစ်ပါသည်။

(ဂ) ယခု ဟိုတယ်လုပ်ငန်း ဆောင်ရွက်မည့် မြေဧရိယာ ၇.၅ ဧကမှာ စုစုပေါင်း မြေဧရိယာ ၅၄၇.၈၀ ဧက အနက်မှ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်မည့် မြေဧရိယာ ၂၁၇.၈ ဧကတွင် ပါဝင်ပြီး စာချုပ် အပိုဒ် ၂-၀၂ အရ ယင်းမြေအား မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီမှ ကုမ္ပဏီသို့ အပြီးအပိုင်လွှဲပြောင်းပေးရမည်ပါသည်။ ကျန် မြေဧရိယာ ၃၃၀ ဧက အား BOT စနစ်ဖြင့် ငှားရမ်းမည်ဖြစ်ပါသည်။

(ဃ) မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ နှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် သဘောတူ စာချုပ်ပါ စီးပွားရေးနှင့် လူနေအဆောက်အအုံများ တည်ဆောက်မည့် မြေ ဧရိယာ ၂၁၇.၈၀ ဧက နှင့်စပ်လျဉ်း၍ ယင်းမြေနှင့် ယင်းမြေပေါ်ရှိ ပစ္စည်းများအား နှစ်မည်မျှ ငှားရမ်းမည်ဖြစ်ကြောင်း (သို့မဟုတ်) မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ နှင့် ကုမ္ပဏီတို့ အကျိုးတူ မည်သို့ခွဲဝေမည် (သို့မဟုတ်) မည်သည့်စနစ်ဖြင့် ဆောင်ရွက်မည်ကို ဖော်ပြမထားပါကြောင်း နှင့် သီးခြားစီ စာချုပ် ချုပ်ဆိုသင့်ကြောင်း ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြု ထားပါသည်။

(င) မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့်သဘောတူစာချုပ်အပေါ် ဆောင်ရွက်မည့် လုပ်ငန်းစနစ် မတူညီသဖြင့် BOT စနစ်ဖြင့် စာချုပ် ၁ စောင် နှင့် BOO စနစ်ဖြင့် စာချုပ် ၁ စောင် သီးခြားချုပ်ဆိုရန် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ အကြံပြုထားသော်လည်း ကုမ္ပဏီမှ လုပ်ငန်းသဘာဝချင်း မတူညီသည့် BOT စနစ်နှင့် BOO စနစ် ၂ မျိုး အပေါ် စာချုပ် ၁ စောင်တည်းသာချုပ် ဆိုထားကြောင်း တွေ့ရှိရပါသည်။

(စ) ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့်မြေငှားရမ်းခြင်းအပေါ် ကုမ္ပဏီမှ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီသို့ မြေအသုံးချမှု ပရီမီယံကြေးသာ ပေးသွင်းမည် ဖြစ်ကြောင်း တွေ့ရှိရပါသည်။

(ဆ) အပိုဒ် ၉-၀၂ အရ စာချုပ် သက်တမ်းမှာ စာချုပ် သက်တမ်းစတင်အကျိုး သက်ရောက်သည့်နေ့မှ စ၍ ငှားရမ်းကာလနှစ်ပေါင်း ၅၀ နှစ်ဖြစ်ပြီး ယင်းကာလ ကုန်ဆုံးပြီးနောက် ထပ်တိုး သက်တမ်းအဖြစ် တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ် သက်တမ်း

တိုးမြှင့်နိုင်သည်ဟု ဖော်ပြထားသဖြင့် အဆိုပါသက်တမ်းသည် မည်သည့် စနစ်ဖြင့် အကြုံးဝင်ကြောင်း ဖော်ပြထားခြင်း မရှိသည်ကို စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Phwint Phyo Thit Co., Ltd. သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ် (၅၅၀-က)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီပိုင် မြေဧရိယာ (၅၄၇.၈၀) ဧက အနက် မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအားကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

Mg3. 1032
26/9

2016 1452
26/9

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

နောက်ဆက်တွဲ-က

စာအမှတ်၊ ၁ / ၂ - ၂ / ၂ ဦး ၆ ( ၁၀၃၃ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၆.၄.၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၄ / မ - ၁၅၅၄ / ၂၀၁၆ (၅၄၄-၈)

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့မှ မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက်ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ်(၅၅၀)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် မြေ(၅၄၇.၈၀)ဧကအနက် မြေ(၇.၅)ဧကပေါ်တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်မှ ရေတံခွန်တောင် **3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း**အား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ အချက်(၅)ချက်အား စိစစ်လက်မှတ်ရေးထိုးပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာတို့ဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါ ညှိနှိုင်းလာသည့် အချက်(၅)ချက်နှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါသည်၊

(ဂ) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာဖြစ်ပါသည်၊

( င ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ **ကန့်ကွက်ရန်မရှိပါ။**

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ၊
လက်ခံစာတွဲ။

နောက်ဆက်တွဲ-ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၄၇ / ၁၆ )
ရက် စွဲ ၊၂ဝ၁၆ခုနှစ် ဧပြီ လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့

အကြောင်းအရာ။ **Phwint Phyo Thit Co.,Ltd သည် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၄-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၅၄/ ၂ဝ၁၆(၅၃၄)

၁။ Phwint Phyo Thit Co.,Ltdသည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီးဝမြောက်၊ ကွင်းအမှတ်(၅၄၉)၊ ချောင်းဝကြီးအရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅ဝ)ရှိ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၇.၅)ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅ဝ)နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ 3 Star Hotelတွင် စုစုပေါင်း(၈၂)ခန်းနှင့် 5 Star Hotelတွင် စုစုပေါင်း(၃ဝဝ)ခန်းကိုထည့်သွင်းတည်ဆောက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ စီမံကိန်းလုပ်ငန်းကြီး( ၁ )ခုလုံးအတွက် OSHE

Services Co.,Ltdမှ Environmental & Social Impact Assessment & Reporting လုပ်ငန်းဆောင်ရွက်လျက်ရှိကြောင်း ကတိဝန်ခံချက်အားတင်ပြထားကြောင်း တွေ့ရှိရပါသည်။

၃။ Phwint Phyo Thit Co.,Ltdမှ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့်မြေသားအမှုန်အမွှား၊ ဖုန်မှုန်များကြောင့် ပတ်ဝန်းကျင်လေထုနှင့်မြေထုညစ်ညမ်းခြင်း၊ လုပ်ငန်းသုံးယာဉ်ယန္တရားများ၏စွန့်ပစ်အမဲဆီ၊အင်ဂျင်ဝိုင်နှင့်ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများနှင့်မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ ဟိုတယ်လုပ်ငန်းများဆောင်ရွက်ချိန်တွင် ထွက်ရှိလာမည့်စွန့်ပစ်အမှိုက်များ၊ ရေဆိုးများနှင့်မီးဖိုခန်းများမှထွက်ရှိလာမည့် အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Phwint Phyo Thit Co.,Ltdမှ 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားပေးအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီအစီရင်ခံရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan – EMP )အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ် နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ များ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဖော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၁၁၅၁
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဧပြီ လ ၂၈ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၆-၄-၂၀၁၆)ရက်စွဲပါ စာအမှတ် ရက-၄/မ-၁၅၅၄/၂၀၁၆ (၅၄၄-ဃ)

၁။ မြန်မာကုမ္ပဏီဖြစ်သော Phwint Phyo Thit Co., Ltd မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ ရေကြည်အရှေ့၊ ကွင်းအမှတ်(၅၄၈)၊ ချောင်းကြီး၀မြောက်၊ ကွင်းအမှတ်(၅၄၉)၊ ချောင်းကြီး၀အရှေ့(အိုင်ကြီး)ကွင်းအမှတ်(၅၅၀)ရှိမန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၅၄၇.၈၀)ဧကအနက် မြေဧရိယာ (၇.၅) ဧကတွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူဦးရဲမြင့်မှ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင်မန္တလေးမြို့သည်ပြည်တွင်းပြည်ပခရီးသည်များအဓိကလည်ပတ်ရာဒေသဖြစ်ခြင်းကြောင့် Phwint Phyo Thit Co., Ltd မှ အခန်းပေါင်း(၁၁၀)ခန်းပါ 5 Star Hotel နှင့် အခန်းပေါင်း (၉၂)ခန်းပါ 3 Star Hotel တို့ကို ဆောင်ရွက်မည်ဖြစ်သည့်အတွက် ခရီးသွားလုပ်ငန်းကို အထောက်အကူပြုသော စီမံကိန်းတစ်ရပ်ဖြစ်သော်လည်း မန္တလေးမြို့သို့ ပြည်ပခရီးသည်ရောက်ရှိမှု၊ ပြည်တွင်းခရီးသွားဧည့်သည်တည်းခိုမှုနှင့်ဟိုတယ်နှင့်တည်းခိုရိပ်သာဖွံ့ဖြိုးမှုတို့သည် အချိုးညီရန်လိုအပ်ပါသည်။

၃။ Phwint Phyo Thit Co., Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် 5 Star Hotel အတွက် Superior အခန်း အမျိုးအစား(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၈၀)၊ Deluxe အခန်း အမျိုးအစား(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၁၂၀)၊Suite အခန်းအမျိုးအစား(၁)ခန်းလျှင်အမေရိကန် ဒေါ်လာ(၁၅၀) နှုန်းသတ်မှတ်ထားပြီး၊ 3 Star Hotel အတွက် Superior အခန်း အမျိုးအစား (၁) ခန်း လျှင်အမေရိကန်ဒေါ်လာ(၈၀)၊ standard အခန်းအမျိုးအစား(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၅၀) ၊ Suiteအခန်းအမျိုးအစား(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၁၂၀)နှုန်းသတ်မှတ်ဖော်ပြထားသဖြင့်ငှားရမ်း ခနှုန်းထားများနှင့်အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

၄။ Phwint Phyo Thit Co., Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် အသုံးပြုသွား မည့်ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာကော်မရှင်၏ အဆုံးအဖြတ်မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတို့ ထောက်ခံချက် ဖြင့်သာဆောင်ရွက်ရမည့်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၅။ ဟိုတယ်ဧရိယာသည်ဂေါက်ကွင်းဧရိယာနှင့် နီးကပ်သဖြင့် တည်းခိုသည့်ဧည့်သည်များအား ဂေါက်သီးရိုက်ကစားမှုမှ မတော်တဆဖြစ်ပွားမှုမဖြစ်စေရန်အကာအကွယ်ဆောင်ရွက်မှုများကြိုတင်စီမံ ထားရှိ သင့်ပါသည်။

၆။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ် မည့် ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ်များတင်ပြ နိုင်ရန်လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုးအမှိုက်နှင့်အညစ်အကြေးစွန့်ပစ်မှုစနစ်များအား စနစ်တကျစီမံဆောင်ရွက်ထားရန် လိုအပ်ပါသည်။

၇။ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ကိုဤဝန်ကြီးဌာနသို့ဆက်လက်လျှောက်ထားရယူသွားရန်လိုအပ် ပါကြောင်းကိုလည်းတင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

( ရည်မွန် ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို-ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

C-I-2

နောက်ဆက်တွဲ-ဃ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
MYANMAR ENGINEERING SOCIETY
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC / ၀၄၆၅ / ၂၀၁၆။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇွန်လ၊ (၂၂) ရက်။

အကြောင်းအရာ။ ။ **Phwint Phyo Thit Co.,Ltd ၏ ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ မေလ(၃)ရက် နေ့စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၅၄/ ၂၀၁၆ (၆၀၄)။

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Phwint Phyo Thit Co.,Ltd မှ ၂၀၁၆ခုနှစ်၊ မေလ(၃)ရက် စွဲဖြင့် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ရေကြည်အရှေ့ကွင်းအမှတ်(၅၄၈)၊ချောင်းကြီးဝမြောက် ကွင်းအမှတ်(၅၄၉)၊ချောင်းကြီးဝအရှေ့(အိုင်ကြီး) ကွင်းအမှတ် (၅၅၀)ရှိ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီပိုင် မြေဧရိယာ(၅၄၇.၈၀)ဧကအနက် မြေဧရိယာ(၇.၅)ဧက ပေါ်တွင် ရေတံခွန်တောင် 3 Star နှင့် 5 Star ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆောက်အဦနှင့် ပက်သက်သောပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၁၆.၅.၂၀၁၆)ရက်နေ့မှ (၁၅.၆.၂၀၁၆) ရက်နေ့အထိ လိုအပ်သော ပုံစံနှင့် BQ များတောင်းခံရပြီး (၁၇.၆.၂၀၁၆) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။ (၁၇..၆.၂၀၁၆) တွင် ထောက်ခံတင်ပြသော အရေအတွက် အပေါ် ကုမ္ပဏီ ဘက် သို့ သဘောတူကြောင်း စာတောင်း ခံခဲ့ရာ ၊ (၁၈.၆.၂၀၁၆) နေ့တွင် ရရှိခဲ့ ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ MIC Projects Assessment Committee အနေဖြင့် မန္တလေးတိုင်းဒေသကြီး တွင် တည်ဆောက်မည့် ဟိုတယ်တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် စာရင်းတွင် ပါဝင်သော်လည်း၊တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဖြန့်လည်ဝယ်ယူမည့် ဆောက်လုပ်ရေးပစ္စည်းများကို ပူးတွဲဖြင့် တင်ပြအပ်ပါသည်။

၅။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် အောက်ဖော်ပြပါ ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံတင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Cement | ၇၄၁၁ T | ၇၄၁၁ T | ၇၄၁၁ T |
| ၂။ | Rebar | ၁၁၀၅ T | ၁၁၀၅ T | ၁၁၀၅ T |
| ၃။ | Ready mixed paint | ၁၅၉၇ gal | ၁၅၉၇ gal | ၇၄၇ gal |
| ၄။ | Plastic paint | ၁၇၂၄၂ gal | ၁၇၂၄၂ gal | ၈၀၆၃ gal |

T = တန် . gal = ဂါလံ

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြင့်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - Managing Director, Phwint Phyo Thit Co.,Ltd
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- အတွင်းရေးမှူး၊ MIC Projects Assessment Committee
- ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

ဖွံ့ဖြိုးသစ်

ကုမ္ပဏီလီမိတက်

က

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရေတံခွန်တောင် 3 Star Hotel နှင့် 5 Star Hotel လုပ်ငန်း

အဆိုပြုတင်ပြချက်

ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်

**PHWINT PHYO THIT COMPANY LIMITED**

No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာ လ၊ ( ၁၁ ) ရက်။

အကြောင်းအရာ။ **။မြေအသုံးချမှုပရီမီယံကြေးနှင့်ပက်သတ်၍တင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သတ်၍ကျွန်တော်တို့၏ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် အောက်ပါအတိုင်းတင်ပြအပ်ပါသည်။

| | | ပရီမီယံကြေးကျပ်သန်းပေါင်း |
|---|---|---|
| ရေတံခွန်တောင်နိုင်ငံတကာအဆင့်မှီဆေးရုံလုပ်ငန်း | ၆.၅ဧက | ၄၂၀ သန်း |
| ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း | ၆.၂ဧက | ၄၀၀ သန်း |
| ရေတံခွန်တောင် 3 Star Hotel and 5 Star Hotel လုပ်ငန်း | ၇.၅ဧက | ၄၈၀ သန်း |
| ရေတံခွန်တောင်စီးပွားရေးနှင့်လူနေအဆောက်အဦးလုပ်ငန်း | ၁၉၇.၆ဧက | ၁၂၇၀၀ သန်း |

တို့ဖြစ် ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒါရိုက်တာ

ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်
**PHWINT PHYO THIT COMPANY LIMITED**
No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာ လ၊ ( ၂၆ ) ရက်။

အကြောင်းအရာ။ **။မြေဧကနှင့်ပက်သတ်၍တင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သတ်၍ကျွန်တော်တို့၏ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် အောက်ပါ အတိုင်းတင်ပြအပ်ပါသည်။

| | |
|---|---|
| ရေတံခွန်တောင်နိုင်ငံတကာအဆင့်မီဆေးရုံလုပ်ငန်း | ၆.၅ဧက |
| ကိုယ်ပိုင်စာသင်ကျောင်းလုပ်ငန်း | ၆.၂ဧက |
| ရေတံခွန်တောင် 3 Star Hotel and 5 Star Hotel လုပ်ငန်း | ၇.၅ဧက |

တို့သည်မြေငှားဂရန်ထုတ်ပေးရန်ခွင့်ပြုသော စုစုပေါင်းမြေဧရိယာ (၃၇၂.၉၂) ဧက တွင် ပါဝင်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒါရိုက်တာ
ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်

**PHWINT PHYO THIT COMPANY LIMITED**

No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ ။ ။ 5. 10 -2016

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချက်အားတင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ဇွန်လ(၂၈) ရက်နေ့ ရက်စွဲပါစာအမှတ် (မရက-၄/ မ-၁၅၅၄/၂၀၁၆/၇၂၈-က)

အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ Phwint Phyo Thit Co., Ltd သည် 3 Star နှင့် 5 Star ဟိုတယ်လုပ်ငန်းနှင့်ပတ်သက်၍ ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ညွှန်ကြားချက်အတိုင်း ပြန်လည်ပြင်ဆင်ချက်ကို တင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | ရေတွက်ပုံ | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ပြင်ဆင်သည့် အရေအတွက် |
|---|---|---|---|---|---|
| (က) | Cement | တန် | ၇၄၀၀ | ၇၄၀၀ | ၇၄၀၀ |
| (ခ) | Rebar | တန် | ၁၁၀၅ | ၁၁၀၅ | ၁၁၀၅ |
| (ဂ) | Ready Mixed Point | ဂါလံ | ၁၅၉၇ | ၁၅၉၇ | ၇၄၇ |
| (ဃ) | Plastic Paint | ဂါလံ | ၁၇၂၄၂ | ၁၇၂၄၂ | ၈၀၆၃ |

လေးစားစွာဖြင့်

ဦးရဲမြင့်

ဒါရိုက်တာ

ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်
**PHWINT PHYO THIT COMPANY LIMITED**
No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ 30. 9. 2016

အကြောင်းအရာ။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ။
ရည်ညွှန်းချက်။ ၂၀၁၆ ခုနှစ် ဧပြီလ ၂၇ ရက် ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ - ၁၅၅၄ ၂၀၁၆( ၅၈၇)။

အထက်ပါအကြောင်းအရာကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့် အညီ အောက်ပါတို့အား လိုက်နာဆောင်ရွက်ပါမည်ဟု တင်ပြအပ်ပါသည်။

(က) မတည်ငွေရင်းပမာဏ ၊ ဝန်ထမ်းလစာ၊ စီးပွားရေးဆိုင်ရာတွက်ချက်မှုများအား မြန်မာကျပ်ငွေဖြင့် ပြင်ဆင်တွက်ချက်ဖော်ပြချက်။
(ခ) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းစာရင်း ပြန်လည်စိစစ်တင်ပြချက်။

လေးစားစွာဖြင့်

ဦးရဲမြင့်
ဒါရိုက်တာ
ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်

ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်

**PHWINT PHYO THIT COMPANY LIMITED**

No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

---

## ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

### CORPORATE SOCIAL RESPONSIBILITY (CSR)

- ဖွံ့ဖြိုးသစ်ကုမ္ပဏီအနေဖြင့် အသားတင်အမြတ်၏ ၂% မှ ဒေသခံပြည်သူများအတွက် ဆေးခန်းထူထောင် ပေးခြင်း၊ အလုပ်အကိုင် အခွင့်အလမ်း ဦးစားပေးခန့်ထားခြင်း၊ စာသင်ကျောင်းဆောက်လုပ် လှူဒါန်းခြင်း၊ ဝန်ထမ်းများအတွက် နေအိမ်စီစဉ်ပေးခြင်း၊ ဒေသပတ်ဝန်းကျင်ရှိ ဘုန်းတော်ကြီး ကျောင်းများသို့ ဝတ္ထုငွေ လှူဒါန်းခြင်း၊ ကျေးရွာလူမှုရေးအသင်းသို့ လစဉ်စက်သုံးဆီများ ထောက်ပံ့ခြင်း၊ ကျေးရွာအုပ်စု အလယ်တန်းကျောင်းသို့ စာသင်ခုံများလှူဒါန်းခြင်း၊ သန့်ရှင်းသောရေပေးဝေရေးလုပ်ငန်းများ ဆောင်ရွက်ပေးခြင်း၊ လမ်းပန်းဆက်သွယ်ရေး ကောင်းမွန်ရေး ဆောင်ရွက်ပေးခြင်း၊ ဒေသခံပြည်သူများနှင့် ဝန်ထမ်းများ၏ သား သမီးများအတွက် ပညာသင် ထောက်ပံ့ကြေးများပေးအပ်ခြင်းစသည့်လုပ်ငန်းများဆောင်ရွက်ထားရှိပါမည်။

- ၎င်းအပြင် ဝန်ထမ်းများ သာရေး၊ နာရေး၊ လူမှုရေးကိစ္စများတွင် အရေးပေါ်ငွေချေးနိုင်ရန် ငွေစုငွေချေး အသင်းထူထောင်ပြီး ငွေကျပ်သိန်း (၁၀၀) မတည်ပေးခြင်း၊ ပတ်ဝန်းကျင်ကျေးရွာများ၏ ဘာသာရေး အခမ်းအနားများတွင် အလှူငွေများ ထည့်ဝင်လှူဒါန်းခြင်း၊ ဒေသခံ ပြည်သူများနှင့် ဝန်ထမ်းများ၏ CSR လုပ်ငန်းများအတွက် ငွေကျပ်သိန်း (၂၀၀၀) အရင်းမပျောက်ရန်ပုံငွေ ထားရှိသုံးစွဲရန် ကြိုတင်စုဆောင်းထားခြင်း၊ တန်ဖိုးနည်းနေအိမ် အလုံး (၅၀) တည်ဆောက်ပေး ခြင်းတို့ကို ဆောင်ရွက်ပေးပါမည်။

လေးစားစွာဖြင့်

(signature)

ဒါရိုက်တာ

ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်

# ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်

**PHWINT PHYO THIT COMPANY LIMITED**

No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ 30-9-2016

အကြောင်းအရာ။ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ချက်ရန်ကိစ္စ။

ရည်ညွှန်းချက်။ ၂၀၁၆ ခုနှစ် မေလ ၃ ရက် ရက်စွဲပါ စာအမှတ်၊ ရက - ၄/မ - ၁၅၅၄ ၂၀၁၆( ၆၀၆)။

အထက်ပါအကြောင်းအရာကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် ဟိုတယ်နှင့် ခရီးသွားသွားလာရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ အောက်ပါတို့အား လိုက်နာဆောင်ရွက်ပါမည်ဟု တင်ပြအပ်ပါသည်။

(က) ဌားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်ရန်ဆောင်ရွက်မည့်ဖြစ်ပါသည်။

(ခ) ဟိုတယ်ဧရိယာသည် ဂေါက်ကွင်းဧရိယာနှင့် နီးကပ်သဖြင့် တည်းခိုသည့် ဧည့်သည်များအား ဂေါက်ကွင်းရိုက်ကစားမှုမှ မတော်တဆ ဖြစ်ပွားမှု မဖြစ်စေရန်အကာအကွယ်ဆောင်ရွက်မှုများ ကြိုတင်စီမံဆောင်ရွက် မည့်ဖြစ်ပါသည်။

(ဂ) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက် နှင့်အချိုးညီခန့်အပ်မည့် ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန် လိုအပ်ပါ သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စီမံဆောင်ရွက်မည့်ဖြစ်ပါသည်။

(ဃ) ရင်းနှီးမြှုပ်ခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေနှင့်အညီဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့်ကဏ္ဍဝန်ကြီးဌာနကို ဆက်လက်လျှောက်ထားရယူသွားရန် ဆောင်ရွက်မည့်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးရဲမြင့်
ဒါရိုက်တာ

ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်
**PHWINT PHYO THIT COMPANY LIMITED**
No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ။ ။ 30-9-2016

အကြောင်းအရာ။ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ (OSS)၊ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ။

ရည်ညွှန်းချက်။ ၂၀၁၆ ခုနှစ် မေလ ၄ ရက် ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ - ၁၅၅၄ ၂၀၁၆( ၆၁၂)။

အထက်ပါအကြောင်းအရာကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ (OSS)၊ ပတ်ဝန်းကျင် ထိန်သိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ အောက်ပါတို့အား လိုက်နာဆောင်ရွက်ပါမည်ဟု တင်ပြအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံဖော်ပြပြီးလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အသားတင် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ပါမည်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြပါမည်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ပါမည်။

ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်
**PHWINT PHYO THIT COMPANY LIMITED**
No. B-801, Dagon Center (I), Bargaya Road, Myaynigone, Sanchaung Township,
Yangon, Myanmar. Ph : 01-503815, 516932, 516964, 516985, Fax : 503815

(ယ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

Yemyint

ဦးရဲမြင့်
ဒါရိုက်တာ
ဖွံ့ဖြိုးသစ် ကုမ္ပဏီလီမိတက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၁/ ၁-၁ / ၂ ဦး ၆ ( ၁၅၀ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရေတံခွန်တောင်ဂေါက်ကွင်း အဆင့်မြှင့်တင်ခြင်းစီမံကိန်းမှ 3 Star Hotel နှင့် 5 Star Hotel များတည်ဆောက်ရေးလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း**

၁။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသည် မန္တလေးတိုင်းဒေသကြီး ရေတံခွန်တောင်ဂေါက်ကွင်းအား နိုင်ငံတကာအဆင့်မီဂေါက်ကွင်း Club House၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ရေးစီမံကိန်းအကောင်အထည်ဖော်ရန် ၂၀၁၅ ခုနှစ် မတ်လမှစ၍ တင်ဒါခေါ်ယူခဲ့ပြီး တင်ဒါတင်သွင်းခဲ့သည့် ကုမ္ပဏီများမှ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်အား ရွေးချယ်ခဲ့ပါသည်။ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်တို့သည် မန္တလေးတိုင်းဒေသကြီး၊ ပုသိမ်ကြီးမြို့နယ်၊ နိုင်ငံတကာအဆင့်မီရေတံခွန်တောင်ဂေါက်ကွင်း၊ Club House၊ အပန်းဖြေအားကစားဥယျာဉ်၊ စီးပွားရေးနှင့်လူနေအဆောက်အအုံများ တည်ဆောက်ရေးစီမံကိန်း အကျိုးတူအကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း (MoU)စာချုပ်ကို ၂၂-၆-၂၀၁၅ ရက်နေ့တွင်လည်းကောင်း၊ သဘောတူညီချက်စာချုပ်ကို ၁၁-၂-၂၀၁၆ ရက်နေ့တွင်လည်းကောင်း ပြည်ထောင်စုရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီ နှစ်ဖက်ညှိနှိုင်း၍ စာချုပ်ချုပ်ဆိုခဲ့ပြီးဖြစ်ပါသည်။ ဖွံ့ဖြိုးသစ်ကုမ္ပဏီလီမိတက်သည် အဆိုပါစီမံကိန်းအတွက် ပေးသွင်းရမည့်ငွေကျပ် (၁၆)ဘီလီယံကို မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသို့ စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ ပေးသွင်းလျက်ရှိပါသည်။

၂။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သည် အဆိုပါစီမံကိန်းနှင့်ပတ်သက်၍ မန္တလေးမြို့ဒေသပတ်ဝန်းကျင် ဖွံ့ဖြိုးတိုးတက်မှုအတွက် အနာဂတ်မြို့ပြစီမံကိန်း(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်း ထိခိုက်နိုင်မှုမရှိခြင်း၊ ဒေသတွင်းအလုပ်အကိုင်နေရာအနည်းဆုံး(၃၀၀၀)ခန့် ရရှိနိုင်မည့်အခွင့်အလမ်း ပေါ်ပေါက်နိုင်သဖြင့် ဒေသ၏လူမှုစီးပွားဘဝ၊ အလုပ်အကိုင်အခွင့်အလမ်းတိုးတက်နိုင်မှုနှင့် ဒေသဖွံ့ဖြိုးတိုးတက်ရေး

